ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)

PAT ၏ ဆွေးနွေးဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ်/ နေ့စွဲ | ဆွေးနွေးချက်မှပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| ၁။ | Eager Communications Group Company Limited | ဆက်သွယ်ရေးဖိုင်ဘာကွန်ယက် ဆက်ကြောင်းများချခင်းခြင်း လုပ်ငန်း နှင့် မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်း | (၁၈/၂၀၁၆)<br>၁၆-၆-၂၀၁၆ | ပြည်ပမှ ဝယ်ယူတင်သွင်းမည့် စက်ကိရိယာပစ္စည်းများ စာရင်းပြင်ဆင်ပေးရန် နှင့် နှစ်စဉ်ဝင်ငွေဖော်ပြမှု ဇယားတွင် ကျပ်ငွေဖြင့် ဖော်ပြပေးရန် | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | အလံ "က"<br>အလံ "ခ" |

ကုမ္ပဏီအမည် - Eager Communications Group Company Limited

လုပ်ငန်း - ဆက်သွယ်ရေး ဖိုင်ဘာကွန်ယက် ဆက်ကြောင်းများချခင်းခြင်းလုပ်ငန်း နှင့် မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၀-၅-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က)မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၁၃-၅-၂၀၁၆ | ၁၄-၉-၂၀၁၆ | **(၁၂၀) ရက်** |
| | (ခ)သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၆-၅-၂၀၁၆ | ၂၀-၅-၂၀၁၆ | **(၅) ရက်** |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၈/၂၀၁၆) သို့ တင်ပြခြင်း | ၁၆-၅-၂၀၁၆ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၈/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၂၃-၅-၂၀၁၆ | | |
| | အဆိုပြုချက်အား လက်ခံရရှိသည်မှာ ရက်ပေါင်း(၉၀)ကျော်လွန်သော်လည်း မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားလာခြင်းမရှိသေးပါသဖြင့် ၁၂-၉-၂၀၁၆ နေ့တွင် အဆိုပြုချက်အား ပြန်လည်ပေးပို့ခဲ့ပါသည်။ | | | |
| ၅ | ကုမ္ပဏီမှ အဆိုပြုလွှာများ ပြင်ဆင်တင်ပြလာခြင်း | | ၂၆-၁၀-၂၀၁၆ | |
| ၆ | ကော်မရှင်အစည်းအဝေးသို့တင်ပြမည့်အကြိမ်နှင့် ရက်စွဲ | ၂၀/၂၀၁၆<br>၂၈-၁၀-၂၀၁၆ | | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | **( ၁၅ ) ရက်** | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | **Eager Communications Group Company Limited** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | မြန်မာနိုင်ငံတစ်ဝန်း ဆက်သွယ်ရေးဖိုင်ဘာ ကွန်ယက်ဆက်ကြောင်းများ ချခင်းခြင်းလုပ်ငန်း (ရန်ကုန်တိုင်း ဒေသကြီးမှအပ) နှင့် မန္တလေးမြို့တော် စည်ပင်သာယာရေးနယ်နိမိတ်အတွင်း မြို့ပြဖိုင်ဘာကွန်ယက်တည်ဆောက်ခြင်းလုပ်ငန်း |
| လုပ်ငန်းတည်နေရာ | - | ပြည်နယ်နှင့် တိုင်းဒေသကြီး (ရန်ကုန်တိုင်းဒေသကြီးမှအပ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၃၂၃၈၆၉.၆၅ သန်း **(US $ ၂၆၉.၅၁ သန်းအပါအဝင်)** |
| လုပ်ငန်းသက်တမ်း | - | ၃၃ နှစ် |
| အရင်းကြေကာလ | - | ၇ နှစ် နှင့် ၂ လ |
| IRR | - | ၃၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ် သန်း) | Benefit (ကျပ် သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ (တစ်နှစ်) | ၃.၀၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၅၀ |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ၂၅၃၄၈.၃၆ |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၈၀.၀၀ | - |
| ၅ | ဝင်ငွေခွန် | ၇၆၆၁၁.၂၀ | ၁၅၅၅၉၆.၅၈ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၁၂၂.၄၀ |
| ၇ | CSR ( ၂ %) | - | ၅၄၉၉.၂၆ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား(၉၃)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | **၇၆၇၉၄.၂၀** | **၁၈၆၅၆၇.၁၀** |
| | | | **၁း၃** |

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Eager Communications Group Company Limited မြန်မာနိုင်ငံတစ်ဝန်း ဆက်သွယ်ရေးဖိုင်ဘာ ကွန်ယက်ဆက်ကြောင်းများ ချခင်းခြင်းလုပ်ငန်း (ရန်ကုန်တိုင်းဒေသကြီးမှအပ) နှင့် မန္တလေးမြို့တော် စည်ပင်သာယာရေး နယ်နိမိတ် အတွင်း မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် /<br>ကမကထပြုသူအမည် | - Eager Communications Group Company Limited<br>- ဦးဏ္ဍဗိလှ |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား<br><br>အဆိုပြုလုပ်ငန်း၏ရုံးခန်းတည်နေရာ<br><br>ပိုင်ရှင်အမည်<br>ဧရိယာအကျယ်အဝန်း<br>နှစ်စဉ်ငှားရမ်းခ | - မြန်မာနိုင်ငံတစ်ဝန်း ဆက်သွယ်ရေး ဖိုင်ဘာကွန်ယက် ဆက်ကြောင်းများ ချခင်းခြင်းလုပ်ငန်း (ရန်ကုန်တိုင်းဒေသကြီးမှ အပ) နှင့် မန္တလေးမြို့တော် စည်ပင်သာယာရေး နယ်နိမိတ်အတွင်း မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်း<br>- အကွက်အမှတ် (၉၀၅-ခ/၄၁၀)၊ ဦးပိုင်အမှတ် (၈-ခ)၊ ချမ်းမြေ့သာယာရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊မန္တလေးမြို့<br>- မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ<br>- ၀.၂၁၈၄ ဧက<br>- ကျပ် ၁၈၀ သိန်း |
| ၄။ | လုပ်ငန်းသက်တမ်း<br>တည်ဆောက်ရေးကာလ | - ၃၃ နှစ် (တည်ဆောက်ရေးကာလအပါအဝင်)<br>- ၃ နှစ် |
| ၅။ | မတည်ငွေရင်းပမာဏ<br><br>**ထည့်ဝင်မှုအမျိုးအစား**<br>ငွေသား<br>စက်ပစ္စည်းကိရိယာများ<br>ပရိဘောဂနှင့်ရုံး သုံးပစ္စည်းများ<br>လုပ်ငန်းသုံးပစ္စည်းများ<br>**စုစုပေါင်း** | ကျပ် ၃၂၃၈၆၉.၆၅ သန်း (အမေရိကန်ဒေါ်လာ ၂၆၉.၅၁ သန်း အပါအဝင်)<br><br>**ကျပ်(သန်း)**<br>၁၀၀.၀၀<br>၃၁၉၈၀၉.၆၅ ( US $ ၂၆၆.၅၁ သန်း)<br>၆၀.၀၀<br>၃၆၀၀.၀၀ ( US $ ၃.၀၀ သန်း)<br>**၃၂၃၈၆၉.၆၅ ( US $ ၂၆၉.၅၁ သန်းအပါအဝင်)** |
| ၆။ | ဝင်ငွေ (၆ နှစ်မြောက်)<br>အသုံးစရိတ် (၆နှစ်မြောက်)<br>အသားတင်အမြတ် (၆နှစ်မြောက်) | - ကျပ် ၆၇,၇၃၄.၀၀ သန်း<br>- ကျပ် ၂၃၅၉၄.၇၅ သန်း<br>- ကျပ် ၄၄,၁၃၉.၂၅ သန်း |

| | | |
|---|---|---|
| ၇။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆နှစ် မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁၄,၇၁၃.၀၈ သန်း<br>- ကျပ် ၃,၃၈၆.၇၀ သန်း |
| ၈။ | ဝန်ထမ်းအင်အား(စတုတ္ထ နှစ်မြောက်)<br>ပြည်တွင်း | - **၉၃ ဦး**<br>၉၃ ဦး (ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၃၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၅၁၅,၀၀၀ ဖြစ်ပါသည်။) |
| ၉။ | အရင်းကြေကာလ | - ၇ နှစ် ၂ လ |
| ၁၀။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃၂ % |
| ၁၁။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု | - ၁၀၀,၀၀၀ kWh |
| ၁၂။ | CSR | - အသားတင်အမြတ်ငွေ၏ ၂ % |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၄/မ-၁၅၅၆/ ၂၀၁၆ ( ၉၉၇ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၂ ရက်

### မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်
### အမှာစာ

အကြောင်းအရာ။ **Eager Communications Group Co., Ltd မှ မြန်မာနိုင်ငံတစ်ဝန်း ဆက်သွယ်ရေးဖိုင်ဘာ ကွန်ယက်ဆက်ကြောင်းများ ချခင်းခြင်းလုပ်ငန်း (ရန်ကုန်တိုင်းဒေသကြီးမှအပ) နှင့် မန္တလေးမြို့တော် စည်ပင်သာယာရေး နယ်နိမိတ်အတွင်း မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ Eager Communications Group Co., Ltd သည် မြန်မာနိုင်ငံတစ်ဝန်း ဆက်သွယ်ရေးဖိုင်ဘာ ကွန်ယက်ဆက်ကြောင်းများ ချခင်းခြင်းလုပ်ငန်း (ရန်ကုန်တိုင်း ဒေသကြီးမှအပ) နှင့် မန္တလေးမြို့တော် စည်ပင်သာယာရေး နယ်နိမိတ်အတွင်း မြို့ပြဖိုင်ဘာကွန်ယက်တည်ဆောက်ခြင်း(Mandalay Metropolitan Fiber Network) လုပ်ငန်းဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံသူ ဦးဣန္ဒြိလှ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ၂၀၁၆ ခုနှစ် မေလ ၂၃ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ Eager Communications Group Co., Ltd. သည် ၂၀၁၄ ခုနှစ် မေလ ၁၅ ရက်နေ့ တွင် ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၇၁၀/၂၀၁၄-၂၀၁၅ ဖြင့် မှတ်ပုံတင်ထားသည့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အားတင်ပြထားပြီး ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ ၃၀-၁-၂၀၁၅ ရက်စွဲဖြင့် Application Service License နှင့် Network Facilities Service (Class) License များရယူထားပြီး လိုင်စင်များ ပူးတွဲတင်ပြထားပါသည်။ မန္တလေးမြို့တော် စည်ပင်သာယာ ရေးကော်မတီနှင့် Eager Communications Group Co., Ltd. တို့အကြား ချုပ်ဆိုထားသည့် အဆောက်အဦ ငှားရမ်းခြင်းစာချုပ်ကို တင်ပြထားပါသည်။

၃။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေအကြံပြုချက်နှင့်အညီ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီနှင့် Eager Communications Group Co., Ltd. တို့အကြား ချုပ်ဆိုထားသည့် မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်း (Mandalay Metropolitan Fiber Network) တည်ဆောက်သွယ်တန်းချိတ်ဆက်မှုဆိုင်ရာ သဘောတူစာချုပ်အား ၂၀၁၆ ခုနှစ်၊ မတ်လ ၉ ရက်နေ့တွင် လက်မှတ်ရေးထိုးပြီးဖြစ်ကြောင်း တင်ပြထားပါသည်။ မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်း

လုပ်ငန်း (Mandalay Metropolitan Fiber Network) တည်ဆောက်သွယ်တန်းချိတ်ဆက်မှုဆိုင်ရာ သဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) Fiber Network ကြီးတစ်ခုလုံးအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် အဖြစ်သတ်မှတ်ပြီး Eager အနေဖြင့် အောက်ပါအတိုင်း BTO ( Build Transfer Operate) စနစ်ဖြင့် လွှဲပြောင်းရယူဆောင်ရွက်ပါမည်-

စီမံကိန်းတည်ဆောက်ချိန် (၃)နှစ်တွင် အောက်ပါအတိုင်း ဆောင်ရွက်ပါမည်-

(၁) ၂၀၁၆ ခုနှစ် (မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ သတ်မှတ်ပေးသည့် ကီလိုမီတာ ၂၅၀ ထက်မပိုသော Fiber Network နှင့် တိုင်းဒေသကြီးအစိုးရမှ လိုအပ်ချက်အရ သတ်မှတ်ပေးသည့် လမ်းကြောင်းအား ခင်းကျင်းရမည်၊ **(စာချုပ်အပိုဒ်- ၂-၂-က(၁))**

(၂) ၂၀၁၇ ခုနှစ် လိုအပ်ချက်အရ ကီလိုမီတာ (၂၅၀) Fiber Network

(၃) ၂၀၁၈ ခုနှစ် လိုအပ်ချက်အရ ကီလိုမီတာ (၂၅၀) Fiber Network

(ခ) လုပ်ငန်းအားလုံးပြီးစီးချိန်တွင် Fiber Network တစ်ခုလုံးနှင့် ဆက်စပ်ပစ္စည်းများအား မန္တလေးမြို့တော်စည်ပင်ပိုင်အဖြစ် Eager မှ သတ်မှတ်ပြီးဖြစ်သည့်အတွက် မန္တလေး မြို့တော်စည်ပင်သို့ အပ်နှံပြီးမှ လုပ်ငန်းဆောင်ရွက်ရမည်။ **(စာချုပ်အပိုဒ်- ၂-၂-ခ)**

(ဂ) ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ချိန် နှစ် ၂၀ (၂၀၁၉ ခုနှစ်မှ ၂၀၃၉ ခုနှစ်အထိ) Eager Communications Group Co., Ltd. မှ ရယူ ဆောင်ရွက်ခြင်း။ **(စာချုပ်အပိုဒ်- ၂-၂-ဂ)**

(ဃ) ၂၀၃၉ ခုနှစ်မှ ၂၀၄၉ ခုနှစ်အထိ ကာလအပိုင်းအခြား ၁၀ နှစ်တွင် Eager မှ အသားတင် အကျိုးအမြတ်၏ ၆၀ %၊ မန္တလေးမြို့တော်စည်ပင် သာယာရေးကော်မတီမှ ၄၀ % တို့အား အသီးသီးခွဲဝေ ရယူကြမည်ဖြစ်ပါသည်။ **(စာချုပ်အပိုဒ်- ၂-၂-ဃ)**

(င) လုပ်ငန်းလိုအပ်ချက်အရ Fiber 48 Core ထက်မနည်း 1728 Core ထက်မများသော ဖိုက်ဘာကြိုးမျှင်များအား ချခင်းဆက်သွယ်ရမည်။ (လိုအပ်ချက်အရ ထပ်မံတိုးချဲ့ တပ်ဆင်ရမည်ဆိုပါက ကော်မတီသို့တင်ပြ အတည်ပြုချက် ရယူဆောင်ရွက်ရမည်။ **(စာချုပ်အပိုဒ်- ၂-၂-င)**

(စ) စာချုပ်သက်တမ်းကာလအတွင်း Fiber 12 Core အား သုံးစွဲ၍ လုံလောက်မှုမရှိပါက ထပ်မံ၍ Fiber 12 Core (စုစုပေါင်း Fiber (24 Core) အခမဲ့ အသုံးပြုခွင့် ရရှိပါမည်။ **(စာချုပ်အပိုဒ်- ၄-၃)**

(ဆ) Fiber Network နှင့် ဆက်စပ်ပစ္စည်းများ ချို့ယွင်းပျက်စီးမှု ဖြစ်ပေါ်လာပါက စာချုပ်သက်တမ်းတစ်လျှောက် အခမဲ့ ပြုပြင်ထိန်းသိမ်းပေးပါမည်။ အချိန် ၄ နာရီအတွင်း အပြီး ပြင်ဆင်ပေးပါမည်။ **(စာချုပ်အပိုဒ်- ၄-၄)**

၄။ လုပ်ငန်းစီမံကိန်းကာလမှာ တည်ဆောက်ရေးကာလ ၃ နှစ် အပါအဝင် စုစုပေါင်း (၃၃) နှစ် ဖြစ်ပြီး ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက လုပ်ငန်းများ စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်း ပမာဏမှာ ကျပ် ၃၂၃၈၆၉.၆၅ သန်း (အမေရိကန်ဒေါ်လာ ၂၆၉.၅၁ သန်းအပါအဝင်) ဖြစ်ပါသည်။ စုစုပေါင်းမတည်ငွေရင်း ပမာဏအနက်မှ စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ ၂၆၆.၅၁ သန်း၊ လုပ်ငန်းသုံးပစ္စည်းတန်ဖိုး အမေရိကန် ဒေါ်လာ ၃.၀၀ သန်း စုစုပေါင်း အမေရိကန်ဒေါ်လာ ၂၆၉.၅၁ သန်းတန်ဖိုးရှိ ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံထည့်ဝင်မှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | ကျပ် (သန်း) | |
|---|---|---|
| ငွေပမာဏ | ၁၀၀.၀၀ | |
| စက်ပစ္စည်းကိရိယာများ | ၃၁၉၈၀၉.၆၅ | ( US $ ၂၆၆.၅၁ သန်း) |
| ပရိဘောဂနှင့် | ၃၆၀.၀၀ | |
| ရုံးသုံးပစ္စည်းများ | | |
| လုပ်ငန်းသုံးပစ္စည်းများ | ၃၆၀၀.၀၀ | ( US $ ၃.၀၀ သန်း) |
| **စုစုပေါင်း** | **၃၂၃၈၆၉.၆၅** | **( US $ ၂၆၉.၅၁ သန်းအပါအဝင်)** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၉၃ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း ၁ ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၃၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၅၁၅,၀၀၀ ဖြစ်ပါသည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၆၇,၇၃၄.၀၀ |
| (ခ) | အသုံးစရိတ် | ၂၃၅၉၄.၇၅ |
| (ဂ) | အသားတင်အမြတ် | ၄၄,၁၃၉.၂၅ |

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမနှစ်)တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန်ကျပ် ၁၄,၇၁၃.၀၈ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၃,၃၈၆.၇၀ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေကာလမှာ ၇ နှစ် ၂ လဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း IRRမှာ ၃၂ %ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ် နှုန်းဖြင့် တွက်ချက် တင်ပြထားပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ သက်ဆိုင်ရာဌာန၊အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းသည် e-government စနစ်အတွက် အထောက်အကူပြုခြင်း၊ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုနည်းခြင်းတို့ကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) Eager Communications Group Co., Ltd သည် ဆက်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာနမှ ၃၀-၁-၂၀၁၅ ရက်နေ့တွင် Application Service License (AS) နှင့် Network Facilities Service (Class) License (NFS-C) လိုင်စင်များ ရယူပြီးလိုင်စင်နှင့် သက်ဆိုင်သော လုပ်ငန်းများ ဆောင်ရွက်လျက် ရှိပါကြောင်း။

(၂) Eager Communications Group Co., Ltd. မှ ဆောင်ရွက်မည့် ဖိုင်ဘာလမ်းကြောင်း (၁၁) ကြောင်းမှာ Ooredoo Myanmar Limited, Telenor Myanmar Limited နှင့် Eager Communications Group Co., Ltd. များသို့ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ ဆောင်ရွက်ခွင့်ပြုပြီး ဖိုင်ဘာလမ်းကြောင်းများဖြစ်ပါကြောင်းနှင့်ဖိုင်ဘာလမ်းကြောင်းများဆောင်ရွက်ခြင်းအတွက် Eager Communications Group Co., Ltd. အနေဖြင့် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေများနှင့် ရယူပြီးလုပ်ငန်းလိုင်စင်များအရ ဆောင်ရွက်ခွင့်ရှိပါကြောင်း။

(၃) လုပ်ငန်းတိုးချဲ့လုပ်ကိုင်ခြင်းအတွက် စက်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းနှင့်လုပ်ငန်းသုံးယာဉ်များ တင်သွင်းခြင်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကုမ္ပဏီမှပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ ဆက်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာနသို့ ဆက်သွယ်ရေးပစ္စည်းများ တင်သွင်းခွင့် ထောက်ခံ၊ ခွင့်ပြုချက်ရယူဆောင်ရွက်သွားရန် လိုအပ်ကြောင်း။

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility–CSR)အတွက်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန် လိုအပ်ကြောင်း။

(၂) အဆိုပြုလုပ်ငန်းများကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ကြောင်း။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ကြောင်း။

(၄) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများရယူ ဆောင်ရွက်ရန် လိုအပ်ကြောင်း။

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ်အား သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။**

၁၀။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Kanbawza Bank တွင် Eager Communications Group Co., Ltd. မှ ဒါရိုက်တာ ဦးကန်အောင် အမည်ဖြင့် ၅-၄-၂၀၁၆ ရက်စွဲ ဖြင့် လက်ကျန်ငွေ US$ ၃၂၇,၃၉၂.၆၂ နှင့် ကျပ်ငွေအထောက်အထားအဖြစ် AGD Bank တွင် Eager Communications Group Co., Ltd. အမည်ဖြင့် ၇-၁၀-၂၀၁၆ ရက်စွဲဖြင့် လက်ကျန်ငွေ ကျပ် ၆၁,၆၀၈,၆၆၄.၆၁ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါကြောင်း နှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ် ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေများ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု( Corporate Social Responsibility - CSR) အဖြစ် အသားတင်အမြတ် ၏ ၂ ရာခိုင်နှုန်းအား ကျန်းမာရေး၊ လူမှုရေးနှင့် မြို့နယ်ဖွံ့ဖြိုးတိုးတက်မှုအတွက် သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရအခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရအခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ အဆိုပြုတင်ပြချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) တည်ဆောက်ရေးကာလအတွင်း ဝန်ဆောင်မှုပေးခြင်းမှ ရရှိလာမည့်ဝင်ငွေပေါ်တွင် ဝင်ငွေခွန် ဥပဒေနှင့် အညီ ဝင်ငွေခွန်ပေးဆောင်ရမည်ဖြစ်ပါသည်။

(ခ) Eager Communications Group Co., Ltd. သည် ခွင့်ပြုမိန့်အမှတ် မနသ - ၁၀၂၂/၂၀၁၅(၂-၁-၂၀၁၅) ဖြင့် ရန်ကုန်စည်ပင်သာယာရေး နယ်နမိတ် အတွင်း ယာဉ်ကြော စီမံခန့်ခွဲမှုနှင့် လုံခြုံရေးစနစ် ( Traffic Management & Security System)နှင့် ရန်ကုန်မြို့တော်မြို့ပြ ဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်း (Yangon City Metropolitan Fiber Network) ဆောင်ရွက်ခွင့် ရရှိထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Eager Communications Group Co., Ltd. မှ မြန်မာနိုင်ငံတစ်ဝန်း ဆက်သွယ်ရေးဖိုင်ဘာကွန်ယက်ဆက်ကြောင်းများ ချခင်းခြင်းလုပ်ငန်း (ရန်ကုန် တိုင်းဒေသကြီးမှအပ) နှင့် မန္တလေးမြို့တော် စည်ပင်သာယာရေး နယ်နိမိတ်အတွင်း မြို့ပြဖိုင်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**

**မန္တလေးမြို့**

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၁၆၃ )

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃ . ၅ .၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက- ၄ / မ - ၁၅၅၆ / ၂၀၁၆( ၆၂၇)

၁။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် စာချုပ်ချုပ်ဆိုပြီး မြို့တော်စည်ပင်သာယာရေးနယ်နိမိတ်အတွင်း ဆက်သွယ်ရေးဖိုက်ဘာကွန်ယက် ဆက်ကြောင်းများချခင်းခြင်းလုပ်ငန်းနှင့် မြို့ပြဖိုက်ဘာကွန်ယက်တည်ဆောက်ခြင်းလုပ်ငန်းကို Eager Communications Group Company Limited မှ ရင်းနှီးမြှုပ်နှံသူ ဦးကျော်ဇံလှက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိနှင့်ပတ်သက်၍** မြို့ပြစီမံကိန်းများကို ထိခိုက်မှုမရှိပါကြောင်း ၊

( ခ ) **မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/ မဖြစ် နှင့်ပတ်သက်၍** လက်ရှိတွင် ဒေသခံအလုပ်သမား(၅၅၀)ဦးခန့် အလုပ်ရရှိဆောင်ရွက်နေပြီး စီမံကိန်းအပြီးတွင် Skill Level Worker(၂၅၀)ဦးခန့် အလုပ်အကိုင် ရရှိမည်ဖြစ်ရာ ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက်များစွာ အထောက်အကူ ဖြစ်စေပါသည် ၊

( ဂ ) **ဖော်ပြပါ မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/ မရှိနှင့်ပတ်သက်၍** အဆိုပြုစီမံကိန်း ဆောင်ရွက်သည့်ပုံစံမှာ လက်ရှိမြို့တွင်း လမ်းများကိုသာ ဆောင်ရွက်ခြင်း ဖြစ်သည့်အပြင် ကုမ္ပဏီစရိတ်ဖြင့် ၁၀၀%ကျခံပြီး မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ စံချိန်စံညွှန်းများအတိုင်း ပြန်လည်ပြင်ဆင်ဆောင်ရွက်ပေးရန် စာချုပ်ချုပ်ဆို လုပ်ကိုင် ဆောင်ရွက်ခြင်းဖြစ်ပြီး ဒေသခံများ၏ ထောက်ခံ ကူညီဆောင်ရွက်မှုကို အပြည့်အဝရရှိနေပါသည်၊

(ဃ) **လုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာ ဟုတ်/မဟုတ်** နှင့်ပတ်သက်၍ အဆိုပြု မြေနေရာသည် လုပ်ငန်းဆောင်ရွက်နိုင်သော မြေနေရာဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် စာချုပ်ချုပ်ဆိုပြီး မြို့တော်စည်ပင်သာယာရေး နယ်နိမိတ်အတွင်း ဆက်သွယ်ရေးဖိုက်ဘာကွန်ယက် ဆက်ကြောင်းများ ချခင်းခြင်းလုပ်ငန်းနှင့် မြို့ပြဖိုက်ဘာကွန်ယက် တည်ဆောက်ခြင်းလုပ်ငန်းကို Eager Communications Group Company Limited မှ ရင်းနှီးမြှုပ်နှံသူ ဦးကျော်ဇိန်လှ က မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး e - Government **စနစ်အတွက် အထောက်အကူပြုခြင်း၊ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုနည်းခြင်းတို့ကြောင့်** ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၅/၉

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

#70

နောက်ဆက်တွဲ-ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ဆသန/၂-၀၂/၀၁၅(၂၀၁၆/ ၁၁၅၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၂.၂၀၁၆ ရက်စွဲပါစာအမှတ်၊ရက-၉/ ၁/၂၀၁၆(၀၃၅၉)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းပါစာဖြင့် Eager Communications Group Co.,Ltd မှ တင်ပြလာသည့် တိုးချဲ့ဆောင်ရွက်မည့် လမ်းကြောင်းများနှင့်စပ်လျဉ်း၍ ရရှိထားသည့် Application Service License နှင့် Network Facilities Service (Class) License များသည် တိုးချဲ့လုပ်ကိုင်မည့် လုပ်ငန်းအတွက် အကျုံးဝင်ခြင်း ရှိ/မရှိကိုလည်းကောင်း၊ လုပ်ငန်းလုပ်ကိုင်ရန်အတွက် တင်သွင်းမည့် စက်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းနှင့် လုပ်ငန်းသုံးယာဉ်များအပေါ်တွင်လည်းကောင်း သဘောထားမှတ်ချက်ပေးပါရန် ညှိနှိုင်းလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနအနေဖြင့် အောက်ဖော်ပြပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(၁) Eager Communications Group Co.,Ltd သည် ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ (၃၀.၁.၂၀၁၅)ရက်နေ့တွင် Application Service License(AS)နှင့် Network Facilities Service(Class) License (NFS-C) လိုင်စင်များ ရယူပြီး လိုင်စင်နှင့် သက်ဆိုင်သော လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

(၂) Eager Communications Group Co.,Ltd မှ ဆောင်ရွက်မည့် ဖိုင်ဘာ လမ်းကြောင်း(၁၁)ကြောင်းမှာ Ooredoo Myanmar Limited, Telenor Myanmar Limited နှင့် Eager Communications Group Co.,Ltd များသို့ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ ဆောင်ရွက်ခွင့်ပြုပြီး ဖိုင်ဘာလမ်းကြောင်းများ ဖြစ်ပါကြောင်းနှင့် ဖိုင်ဘာလမ်းကြောင်းများ ဆောင်ရွက်ခြင်းအတွက် Eager Communications Group Co.,Ltd အနေဖြင့် ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေများနှင့် ရယူပြီးလုပ်ငန်းလိုင်စင်များအရ ဆောင်ရွက်ခွင့်ရှိပါသည်။

(၃) လုပ်ငန်းတိုးချဲ့လုပ်ကိုင်ခြင်းအတွက် စက်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းနှင့် လုပ်ငန်းသုံးယာဉ်များ တင်သွင်းလာခြင်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကုမ္ပဏီမှ ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသို့ ဆက်သွယ်ရေးစက်ပစ္စည်းကိရိယာများအား တင်သွင်းခွင့် ထောက်ခံ၊ ခွင့်ပြုချက် ရယူဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါသည်။

**ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)**
**(ခင်မောင်သက်၊ အမြဲတမ်းအတွင်းဝန်)**

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- Eager Communications Group Co.,Ltd
- ရုံးလက်ခံ/ မျှော

နောက်ဆက်တွဲ-ဂ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဂဂ၁/ MIC(OSS) /၀၁(၁၆၆ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် မေ လ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **Eager Communications Group Company Limited မှ ဆက်သွယ်ရေး ဖိုင်ဘာကွန်ယက်ဆက်ကြောင်းများချခင်းခြင်းလုပ်ငန်းနှင့် မြို့ပြဖိုင်ဘာကွန်ယက်တည်ဆောက်ခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၅-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/မ- ၁၅၅၆/၂၀၁၆(၆၃၁)

၁။ Eager Communications Group Company Limited မှ မြန်မာပြည်တစ်ဝှမ်း ရန်ကုန်တိုင်းဒေသကြီးမှအပပြည်နယ်နှင့်တိုင်းဒေသကြီးများအားလုံးတွင် ဖိုင်ဘာကွန်ယက်ဆက်ကြောင်းများချထားခင်းကျင်းမှုလုပ်ငန်းနှင့် မြို့ပြဖိုင်ဘာကွန်ယက်တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်မှုစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု(Corporate Social Responsibility-CSR)လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လုပ်ငန်းခွင်အတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်စွန့်ပစ်ရန်နေရာများထားရှိခြင်း၊ ရေနုတ်မြောင်းများအားရေစီးရေလာ

ကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများအား ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ဆက်သွယ်ရေးဆိုင်ရာအခြေခံအဆောက်အဦများ၊ Service Provider များတည်ဆောက်ခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများကြောင့်ထွက်ရှိလာမည့်မြေသားအမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊ အလုပ်သမားများ၏စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များနှင့်လုပ်ငန်းသုံးစွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းစေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Eager Communications Group Company Limited မှ ဆက်သွယ်ရေးဖိုင်ဘာကွန်ယက်ဆက်ကြောင်းများချခင်းခြင်းလုပ်ငန်းနှင့် မြို့ပြဖိုင်ဘာကွန်ယက်တည်ဆောက်ခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု(Corporate Social Responsibility-CSR)အတွက်အသားတင်အမြတ်ငွေ၏(၂%)အားအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်း

ညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးရုံးလက်ခံ

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်
အဆိုပြုချက်

# အီဂါ ကမြူးနီးကေးရှ်(န်)ဂရု(ပ်) ကုမ္ပဏီ လီမိတက်

PROPOSAL OF THE INVESTOR TO MAKE
MYANMAR CITIZENS INVESTMENT IN
THE REPUPLIC OF THE UNION OF MYANMAR

**EAGER COMMUNICATIONS GROUP COMPANY LIMITED.**

# “ မာတိကာ ”

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

Myanmar Investment Commission

တယ်လီဖုန်း -၀၁-၆၅၈၁၃၃
ဖက်(စ်) -၀၁-၆၅၇၈၂၄

စာအမှတ်၊ ရက- ၉ / ၁/ ၂၀၁၆ ( ၀၉၀၅ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်

အကြောင်းအရာ။ Eager Communications Group Co., Ltd. မှ ပြည်နယ်နှင့် တိုင်းဒေသကြီးများတွင် ဖိုင်ဘာကွန်ယက်ဆက်ကြောင်းများ ချခင်းခြင်း လုပ်ငန်းတိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန်၊ ရင်းနှီးမြှုပ်နှံမှုအရပ်ဒေသတိုးချဲ့ လုပ်ကိုင်ခွင့်ပြုပါရန်နှင့်ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက်။ Eager Communications Group Co., Ltd. ၏ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁ ရက် နေ့စွဲပါစာအမှတ်၊ EAGER/MNGT/PTD/12-15/043

Eager Communications Group Co., Ltd. မှ ရည်ညွှန်းပါစာဖြင့် တင်ပြလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ ကော်မရှင်မှ မူလခွင့်ပြုခဲ့သည့် လုပ်ငန်းမှာ ရန်ကုန်မြို့တော်စည်ပင်သာယာရေးနယ်နိမိတ်အတွင်း လုပ်ငန်းလုပ်ဆောင်ရန်အတွက်သာဖြစ်၍ ကုမ္ပဏီမှ ထပ်မံတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သီးခြားလုပ်ငန်းတစ်ခုအနေဖြင့်သာ ကော်မရှင်သို့ အဆိုပြုလွှာတင်ပြလျှောက်ထားရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မန်းနေဂျင်းဒါရိုက်တာ
Eager Communications Group Co., Ltd.
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၆၀၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ ဆက်သွယ်ရေး နှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၏ ၉-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ဆသန/၃-၀၂/၀၀၄(၂၀၁၅/၄၉၉၀)

၁။ Eagar Communication Group Co.,Ltd. မှ မြေအောက်ဆက်သွယ်ရေး ဖိုင်ဘာကွန်ရက် ဆက်ကြောင်းများ တည်ဆောက်ခြင်းလုပ်ငန်းကို ဆက်ကြောင်း-၁ Telenor Myanmar Ltd.၏ လုပ်ငန်း အပ်နှံမှုအရ တောင်ကြီး - ဟိုပုန်း - ဘက်ရင်း - ဆီဆိုင် - လွိုင်ကော် - ဒီမောဆို - ဖားဆောင်းနှင့် ဒီမောဆို-သံတောင်-လိပ်သို-တောင်ငူလမ်းကြောင်း၊ ဆက်ကြောင်း-၂ Ooredoo Myanmar Ltd.၏ လုပ်ငန်းအပ်နှံမှုအရ တောင်ကြီး- လွိုင်လင်- နမ့်စန်- ကွန်ဟိန်း- မိုင်းပြင်း- ကျိုင်းတုံ-မိုင်းဖြတ်-တာချီလိတ်လမ်းကြောင်း နှင့် ဆက်ကြောင်း - ၃ Eager Communication Group Co.,Ltd. ၏ လုပ်ငန်းအပ်နှံမှုအရ မကွေး - မင်းဘူး- ပဒါန်း-အမ်း- မြောက်ဦး- စစ်တွေလမ်းကြောင်း ၊ စုစုပေါင်း ဆက်ကြောင်း ( ၃ ) ကြောင်းတွင် မြေအောက်ဆက်သွယ်ရေး ဖိုင်ဘာကွန်ရက် ဆက်ကြောင်းများ တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်လိုခြင်းနှင့်ပတ်သက်၍စိစစ်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ရှိ / မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ မြေအောက်ဆက်သွယ်ရေး ဖိုင်ဘာဆက်ကြောင်းများ ချခင်းဆောင်ရွက်မည့်လုပ်ငန်းအား စိစစ်ရာတွင် မြေသားများ တူးဖော်ခြင်း ၊ ကားလမ်းတစ်လျှောက် လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်သဖြင့် အမှုန်အမွှားများ ထွက်ရှိနိုင်ခြင်း နှင့် ယာဉ်အန္တရာယ်များ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သစ်တောဥပဒေပုဒ်မ ၁၂(က)အရ **"မည်သူမဆို သစ်တောနယ်မြေ နှင့် သစ်တောဖုံးလွှမ်းလျှက်ရှိသော အစိုးရက စီမံခန့်ခွဲရှိသော** မြေအတွင်းဖွံ့ဖြိုးမှုလုပ်ငန်း (သို့မဟုတ်) စီးပွားရေး ၊ **စီမံ ကိန်းလုပ်ငန်း တစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင်** ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် **သစ်တောရေးရာဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုချက်ရယူရမည်ဟု"**ပြဌာန်းထားပါသဖြင့် အဆိုပြုမြေနေရာတွင် သစ်ပင်သစ်တောပေါက်ရောက်ဖုံးလွှမ်းမှု ရှိ / မရှိ ကွင်းဆင်းစစ်ဆေးရန် လိုအပ်မည်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Eagar Communication Group Co.,Ltd. မှ မြေအောက်ဆက်သွယ်ရေး ဖိုင်ဘာကွန်ရက်ဆက်ကြောင်းများ တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်ရေးဆွဲခြင်း ၊ လုပ်ငန်းအဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ ၊ စက်ကိရိယာများ အသုံးပြုခြင်း ၊ လူမှုရေးဆိုင်ရာ တာဝန်ခံမှုအတွက်သုံးစွဲမည့်ငွေအား တိကျစွာ ဖော်ပြရန် နှင့် ဖော်ပြပါရှိသည့် သက်ဆိုင်ရာဝန်ကြီးဌာနများ၏ စည်းကမ်းသတ်မှတ်ချက်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင်စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) သတ်မှတ်ပြဋ္ဌာန်းထားသည့်သစ်တောဥပဒေ၊နည်းဥပဒေ၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူ များ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

စာအမှတ်၊ ၅၀၀ - ဆညသ / ခွဲ (၅) ဖိုင်ဘာ/ ၆၆၂၆
ရက်စွဲ၊၂၀၁၅ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်

အကြောင်းအရာ။ **သဘာဝပတ်ဝန်းကျင်ထိခိုက်မှုရှိမရှိနှင့်ပတ်သက်သည့် သဘောထားမှတ်ချက် တောင်းခံထားသည့် ကိစ္စ**

ရည်ညွှန်းချက် (၁) EAGER Communications Group Co.,Ltd. ၏၁၀-၇-၂၀၁၅ရက်စွဲပါ စာအမှတ်၊ EGR / COO / MOF / ၇-၅

(၂) ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ ၇-၁၀-၂၀၁၅ရက်စွဲပါစာအမှတ်၊ ဆသန/၃-၀၂/၀၀၄(၂၀၁၅/၅၅၆၃)

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Eager Communications Group Co.,Ltd မှ မြေအောက်ဆက်သွယ်ရေး ဖိုင်ဘာကွန်ရက်ဆက်ကြောင်းများ တည်ဆောက်ခြင်းလုပ်ငန်းကို Telenor Myanmar Ltd.အတွက်တောင်ကြီး-ဟိုပုန်း-ဘက်ရင်း-ဆီဆိုင်-လွိုင်ကော်-ဒီမောဆို-ဖားဆောင်းနှင့် ဒီမောဆို-သံတောင်-လိပ်သို-တောင်ငူ လမ်းကြောင်းတွင် လည်းကောင်း၊ Ooredoo Myanmar Ltd. အတွက် တောင်ကြီး- လွိုင်လင်- နမ့်စန်- ကွန်ဟိန်း- မိုင်းပြင်း- ကျိုင်းတုံ- မိုင်းဖြတ်- တာချီလိတ် လမ်းကြောင်းတွင်လည်းကောင်း၊ Eager Communications Co.,Ltd မှ တည်ဆောက်မည့် မကွေး- မင်းဘူး- ပဒါန်း- အမ်း- မြောက်ဦး- စစ်တွေ လမ်းကြောင်းတွင်လည်းကောင်း စုစုပေါင်း ဆက်ကြောင်း(၃)ခု၏ ဖိုင်ဘာလုပ်ငန်းများဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုရှိမရှိ သဘောထားမှတ်ချက်တောင်းခံခဲ့မှုအပေါ် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် ပြန်ကြားလာခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ Eager Communications Co.,Ltd အနေဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သစ်တောဥပဒေပုဒ်မ ၁၂(က)အရ ကြိုတင်ခွင့်ပြုချက်ရယူရန်နှင့် အောက်ဖော်ပြပါတို့အား လိုက်နာဆောင်ရွက်နိုင်ရန် အကြောင်းကြားအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်ဆီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်ရေးဆွဲခြင်း လုပ်ငန်းအဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့်လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များ၊ စက်ကိရိယာများ အသုံးပြုခြင်း၊ လူမှုရေးဆိုင်ရာတာဝန်ခံမှုအတွက် သုံးစွဲမည့်ငွေအား တိကျစွာဖော်ပြရန်နှင့် ဖော်ပြပါရှိသည့် သက်ဆိုင်ရာဝန်ကြီးဌာနများ၏ စည်းကမ်းသတ်မှတ်ချက်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) သတ်မှတ်ပြဋ္ဌာန်းထားသည့် သစ်တောဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

၁၇/၁၀

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ကျော်ဦး၊ ဒုတိယညွှန်ကြားရေးမှူး)

Managing Director
EAGER Communications Group Co.,Ltd.

မိတ္တူ

- ပြည်ထောင်စုဝန်ကြီးရုံး၊ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ဆသန/၃-၀၂/၀၀၄(၂၀၁၅/ ၇၄၀၀ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ ဒီဇင်ဘာလ ၃၁ ရက်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားလာသည့် ကိစ္စ</u>

ရည်ညွှန်းချက် (၁) ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၏ ၃၀-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊၅၀၀-ဆည/ခွဲ(၅)ဖိုင်ဘာ/၇၃၂၁

(၂) ဤရုံး၏ ၃-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ဆသန/၂-၀၂/၀၁၅(၂၀၁၅/၆၈၀၄)

(၃) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ ၁၇-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊၃(၂)/၁၆(ဃ)(၁)/(၃၆၇၄/၂၀၁၅)

၁။ ဆက်သွယ်ရေးမြေအောက်ဖိုင်ဘာကွန်ရက်ဆက်ကြောင်းများ တည်ဆောက်ခြင်းလုပ်ငန်းများဆောင်ရွက်ရာ၌ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် Eager Communications Group Co., Ltd. မှ ရေးဆွဲထားပြီးဖြစ်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်အား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ အတည်ပြုချက် ရယူနိုင်ရေး ဆောင်ရွက်ပေးနိုင်ရန် ရည်ညွှန်းချက် (၁)ပါစာဖြင့် ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနတင်ပြလာသဖြင့် ဤရုံးမှ ရည်ညွှန်းချက် (၂)ပါစာဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ညှိနှိုင်းအကြောင်းကြားစာပေးပို့ခဲ့ပါသည်။

၂။ အဆိုပါကိစ္စအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် Eager Communications Group Co., Ltd. မှ တင်ပြလာသည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်တွင် ဖော်ပြထားသည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု လျော့နည်းစေအောင်ဆောင်ရွက်မည့် အစီအစဉ်များအား စနစ်တကျလိုက်နာဆောင်ရွက်၍ စီမံကိန်းလုပ်ငန်းများဆောင်ရွက်မည့်မြေနေရာတွင် သစ်ပင်သစ်တောပေါက်ရောက်မှုရှိ/မရှိ သစ်တောဥပဒေပုဒ်မ ၁၂(က) နှင့်အညီ ကွင်းဆင်းစစ်ဆေး၍ ကြိုတင်ခွင့်ပြုချက်ရယူဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှပြန်ကြားလာသည့် သဘောထားမှတ်ချက်အား သိရှိနိုင်ရန်နှင့် ဆက်လက်ဆောင်ရွက်နိုင်ရန် အကြောင်းကြား ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်သက် ၊ အမြဲတမ်းအတွင်းဝန် )

<u>ညွှန်ကြားရေးမှူးချုပ်</u>
<u>ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန</u>

မိတ္တူ-

- Eager Communications Group Co., Ltd.
- ရုံးလက်ခံ/မျှော။

SaThaNa3-02-004(2015).doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

စာအမှတ်၊ ၅၀၀-ဆည/ ခွဲ ( ၅ ) ဖိုင်ဘာ/ ၀၁၆၈
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၃ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan) နှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးပို့ခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဤရုံး၏ ၃၀-၁၁-၂၀၁၅ရက်စွဲပါ စာအမှတ်၊ ၅၀၀- ဆည/ ခွဲ(၅) ဖိုင်ဘာ/ ၇၃၂
(၂) ပြည်ထောင်စုဝန်ကြီးရုံး၏ ၃၁-၁၂-၁၅ရက်စွဲပါစာအမှတ်၊ ဆသန/၃-၀၂/ ၀၀၄(၂၀၁၅/၇၄၀၀)

၁။ Eager Communications Group Co.,Ltd ၏ ဆက်သွယ်ရေး မြေအောက်ဖိုင်ဘာကွန်ရက် ဆက်ကြောင်း တည်ဆောက်ခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေးအတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan)အား ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ညှိနှိုင်းခဲ့ပါသည်။

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှလည်း အဆိုပါပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan) တွင် ဖော်ပြထားရှိသည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု လျော့နည်းစေမည့် အစီအစဉ်များအား စနစ်တကျလိုက်နာ ဆောင်ရွက်၍ စီမံကိန်း လုပ်ငန်းများ ဆောင်ရွက်မည့်မြေနေရာတွင် သစ်ပင်သစ်တောပေါက်ရောက်မှု ရှိ/မရှိ သစ်တောဥပဒေ ပုဒ်မ ၁၂(က)နှင့် အညီ ကွင်းဆင်းစစ်ဆေး၍ ကြိုတင်ခွင့်ပြုချက် ရယူဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း အသောထားမှတ်ချက်ပေးပို့လာခြင်းအား သိရှိနိုင်ပါရန်နှင့် ဥပဒေ၊ နည်းဥပဒေများနှင့် အညီလိုက်နာဆောင်ရွက်သွားရန် အသိပေးအကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ကျော်ဦး၊ ဒုတိယညွှန်ကြားရေးမှူး)

Managing Director
Eager Communications Group Co.,Ltd.

မိတ္တူ။
- ပြည်ထောင်စုဝန်ကြီးရုံး၊ ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ဆသန/၂-၀၂/၀၁၅(၂၀၁၆/ ၁၁၄၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၂.၂၀၁၆ ရက်စွဲပါစာအမှတ်၊ရက-၉/၁/၂၀၁၆(၀၃၅၉)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းပါစာဖြင့် Eager Communications Group Co.,Ltd မှ တင်ပြလာသည့် တိုးချဲ့ဆောင်ရွက်မည့် လမ်းကြောင်းများနှင့်စပ်လျဉ်း၍ ရရှိထားသည့် Application Service License နှင့် Network Facilities Service (Class) License များသည် တိုးချဲ့လုပ်ကိုင်မည့် လုပ်ငန်းအတွက် အကျုံးဝင်ခြင်း ရှိ/မရှိကိုလည်းကောင်း၊ လုပ်ငန်းလုပ်ကိုင်ရန်အတွက် တင်သွင်းမည့် စက်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းနှင့် လုပ်ငန်းသုံးယာဉ်များအပေါ်တွင်လည်းကောင်း သဘောထားမှတ်ချက်ပေးပါရန် ညှိနှိုင်းလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနအနေဖြင့် အောက်ဖော်ပြပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(၁) Eager Communications Group Co.,Ltd သည် ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ (၃၀.၁.၂၀၁၅)ရက်နေ့တွင် Application Service License(AS)နှင့် Network Facilities Service(Class) License (NFS-C) လိုင်စင်များ ရယူပြီး လိုင်စင်နှင့် သက်ဆိုင်သော လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

(၂) Eager Communications Group Co.,Ltd မှ ဆောင်ရွက်မည့် ဖိုင်ဘာ လမ်းကြောင်း(၁၁)ကြောင်းမှာ Ooredoo Myanmar Limited, Telenor Myanmar Limited နှင့် Eager Communications Group Co.,Ltd များသို့ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ ဆောင်ရွက်ခွင့်ပြုပြီး ဖိုင်ဘာလမ်းကြောင်းများ ဖြစ်ပါကြောင်းနှင့် ဖိုင်ဘာလမ်းကြောင်းများ ဆောင်ရွက်ခြင်းအတွက် Eager Communications Group Co.,Ltd အနေဖြင့် ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေများနှင့် ရယူပြီးလုပ်ငန်းလိုင်စင်များအရ ဆောင်ရွက်ခွင့်ရှိပါသည်။

(၃) လုပ်ငန်းတိုးချဲ့လုပ်ကိုင်ခြင်းအတွက် စက်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းနှင့် လုပ်ငန်းသုံးယာဉ်များ တင်သွင်းလာခြင်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကုမ္ပဏီမှ ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသို့ ဆက်သွယ်ရေးစက်ပစ္စည်းကိရိယာများအား တင်သွင်းခွင့် ထောက်ခံ၊ ခွင့်ပြုချက် ရယူဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်သက်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- Eager Communications Group Co.,Ltd
- ရုံးလက်ခံ/ မျှော

**EAGER Communications Group Co., Ltd.**
4th Floor ,Building (C-6), ,Mindama Housing Compound, Mayangone Township,
Yangon, Myanmar.
Ph: +95 1 652405,652407, Fax: 652540 , E-mail: office@eager.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ၊(၂၈)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ(၂၀)တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် ကျွန်တော်တို့၏ အီဂါ ကမြူးနီးကေးရှ်(န်) ဂရု(ပ်)ကုမ္ပဏီ လီမိတက်" **Eager Communications Group Co., Ltd.** " သည် မြန်မာပြည်တစ်ဝှမ်းရန်ကုန်တိုင်းမှအပပြည်နယ်နှင့် တိုင်းဒေသကြီးများအားလုံးတွင် ဖိုင်ဘာကွန်ယက်ဆက် ကြောင်းများ ချထားခင်းကျင်းမှုလုပ်ငန်း ( **National Backbone Fiber Network** ) နှင့် မြို့ပြဖိုင်ဘာကွန်ယက် (**Metropolitan Fiber Network** )တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်မည်ဖြစ်ပါ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြု မိန့်ကိုလျှောက်ထားအပ် ပါသည်။

၂။ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းအကျိုးဖြစ်ထွန်းစေပါသည်။ သို့ဖြစ်ပါ၍ကျွန်တော်များ၏ လျှောက်ထားခြင်းကိုလက်ခံ စဉ်းစားပေးပါရန်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ (၂၀)တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်တို့ကိုလည်းခံစားခွင့်ပြုပါရန်လျှောက်ထားအပ်ပါသည်။

**EAGER Communications Group Co., Ltd.**
4[th] Floor ,Building (C-6), ,Mindama Housing Compound, Mayangone Township,
Yangon, Myanmar.
Ph: +95 1 652405,652407, Fax: 652540 , E-mail: office@eager.com.mm

၃။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့်ခွင့်ပြုမိန့် ထုတ်ပေးပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁)ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။

(၂) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍တွက်ချက်မှုဇယားများ။

(၃) လုပ်ငန်းပိုင်းနှင့်ငွေကြေး အထောက်အထားများ။

(၄) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း။

ဦးကျော်ဒွိလှ
ဥက္ကဋ္ဌ
အီဂါ ကမြူးနီးကေးရှ်(န်)ဂရု(ပ်)ကုမ္ပဏီလီမိတက်

**EAGER Communications Group Co., Ltd.**
4th Floor, Building (C-6), Mindama Housing Compound, Mayangone Township, Yangon, Myanmar.
Ph: +95 1 652405,652407, Fax: 652540 , E-mail: office@eager.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ၊(၂၇)ရက်။

အကြောင်းအရာ။ ။ အီဂါ ကမြူးနီးကေးရှ်(န်)ဂရု(ပ်)ကုမ္ပဏီ လီမိတက် " Eager Communications Group Co., Ltd. " ၏ပြည်နယ်နှင့်တိုင်းဒေသကြီး(ရန်ကုန်တိုင်း မှ အပ)ဆက်သွယ်ရေးဖိုင်ဘာကွန်ယက်ဆက်ကြောင်းများချခင်းခြင်းလုပ်ငန်းလုပ်ငန်းလုပ်ကိုင်ခြင်းနှင့်ပတ်သက်၍ ဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့ စည်းတည်ထောင်ထားသည့်ကျွန်တော်တို့၏ အီဂါ ကမြူးနီးကေးရှ်(န်) ဂရု(ပ်)ကုမ္ပဏီ လီမိတက် " Eager Communications Group Co., Ltd. " သည် မြန်မာပြည်တစ်ဝှမ်းရန်ကုန်တိုင်းမှအပပြည်နယ်နှင့် တိုင်းဒေသကြီးများအားလုံးတွင် ဖိုင်ဘာကွန်ယက်ဆက်ကြောင်းများချထားခင်းကျင်း မှုလုပ်ငန်း ( National Backbone Fiber Network ) နှင့်မြို့ပြဖိုင်ဘာကွန်ယက် (Metropolitan Fiber Network )တည်ဆောက်ခြင်လုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက်မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ကိုလျှောက်ထားအပ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းသည် နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ပါမည်ဟုကတိပြုပါသည်

**EAGER Communications Group Co., Ltd.**
4th Floor ,Building (C-6), ,Mindama Housing Compound, Mayangone Township,
Yangon, Myanmar.
Ph: +95 1 652405,652407, Fax: 652540 , E-mail: office@eager.com.mm

(ဃ) ထို့အပြင်ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၏နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(င) အီဂါ ကမြူးနီးကေးရှ်(န်)ဂရူ(ပ်)ကုမ္ပဏီ လီမိတက်" **Eager Communications Group Co., Ltd.** " အနေဖြင့်ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ ညွှန်ကြားချက်များကိုလိုက်နာသွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့် -

ဦးကွန္ဒိလှ

ဥက္ကဋ္ဌ

အီဂါ ကမြူးနီးကေးရှ်(န်)ဂရူ(ပ်)ကုမ္ပဏီလီမိတက်

ပုံစံ (မနသ–၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ၊( )ရက်။

ကျွန်တော်/ ကျွန်မသည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်–

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

| | |
|---|---|
| (က) အမည် | ဦးကျော်ဒွိလှ |
| (ခ) အဖအမည် | ဦးသာလှ |
| (ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/မရက(နိုင်)၀၃၆၀၂၀ |
| (ဃ) နေရပ်လိပ်စာ | အမှတ်(၁၃)၊ ပါရမီလမ်း၊ လောကနတ်အိမ်ရာ)၊ ၁၂–ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး၊ဘာသာ | ဗမာ/ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | အီဂါ ကမြူးနီးကေးရှ်(န်)ဂရူ(ပ်)ကုမ္ပဏီလီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | ဝန်ဆောင်မှုလုပ်ငန်း |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်(၂၅)၊ လေဆိပ်ရိပ်သာလမ်းသွယ်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် (၁) ________ (၂) ________

(ခ) အဖအမည် (၁) ________ (၂) ________

(ဂ) နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ်

(၁) ________ (၂) ________

(ဃ) နေရပ်လိပ်စာ (၁) ________ (၂) ________

(င) လူမျိုး၊ ဘာသာ (၁) ________ (၂) ________

(စ) အဖွဲ့အစည်းအမည် ________

(ဆ) လုပ်ငန်းအမျိုးအစား

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ ________

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း ဖိုင်ဘာကွန်ယက်ဆက်ကြောင်းများချခင်းခြင်းလုပ်ငန်းနှင့် မြို့ပြဖိုင်ဘာကွန်ယက်တည်ဆောက်ခြင်း

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း
**နိုင်ငံသားနှင့်နိုင်ငံသားအစုစပ်လုပ်ငန်း**

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင်

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း

(ဂ) လီမိတက်ကုမ္ပဏီ **Eager Communications Group Co., Ltd.**

(ဃ) သမဝါယမအသင်း

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ထည့်ဝင်မည့်မတည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့်ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ
၁၀% + ၅% + ၁၀% + ၁၀% + ၁၀% + ၅% (ကျပ်သန်း ၁၀၀)

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား
ထည့်ဝင်ရှယ်ယာအမျိုးအစားအတိုင်းခွဲဝေခံစားပါမည်

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ
ပူးတွဲ

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

(ခ) Eager သည် နိုင်ငံတော်ဘက်စုံဖွံ့ဖြိုးတိုးတက်စေရန်အတွက် IT Infrastructure များ တည်ဆောက်ဖြည့်ဆည်းပေးရန်နှင့် ခေတ်မီ IT နည်းပညာများ ဖြည့်ဆည်းပေးရန် တည်ထောင်ထားခြင်း ဖြစ်ပါသည်။

(ဂ) Eager သည် ဆက်သွယ်ရေးသတင်းအချက်အလက်နှင့်နည်းပညာဝန်ကြီးဌာန ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ ထုတ်ပေးထားသော NFS (C)နှင့် AS လိုင်စင်များကို ရရှိထားပါသည်။

(ဃ) ကမ္ဘာ့ခေတ်မီမြို့တော်ကြီးများတွင် SMART CITY တစ်ခုဖြစ်လာပြီး စီးပွားရေး၊ လူမှုရေးကဏ္ဍများ ဖွံ့ဖြိုးတိုးတက်လာစေရန်အတွက် အခြေခံကျသော Telecom Infrastructure တစ်ခုဖြစ်သည့် Metropolitan Fiber Network တစ်ခုရှိ ရမည်ဖြစ်သဖြင့် မြန်မာနိုင်ငံ၏ တတိယမြို့တော်ဖြစ်သော မန္တလေးမြို့တော်တွင်လည်း Fiber Network တစ်ခုတည်ဆောက်ပြီး ဌာနဆိုင်ရာ အဖွဲ့အစည်းများ၊ ကုမ္ပဏီများ၊ Operator များနှင့် ပြည်သူလူထုတစ်ရပ်လုံး သုံးစွဲနိုင်ရန် ရည်ရွယ်ပါသည်။ (ဤမှနောင်တွင် "စီမံကိန်း" ဟု ရည်ညွှန်းခေါ်တွင်မည်)

(င) သို့ဖြစ်ပါ၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ ခွင့်ပြုချက်ဖြင့် Eager သည် ငွေရေးကြေးရေးဆိုင်ရာထည့်ဝင်မှုဖြင့်လည်းကောင်း၊ နည်းပညာဆိုင်ရာကူညီပံ့ပိုးမှုဖြင့်လည်းကောင်း ပူးပေါင်းဆောင်ရွက်ရေး မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနယ်နိမိတ်အတွင်း Metropolitan Fiber Network (ဤမှ နောင်တွင် " Fiber Network "ဟု ရည်ညွှန်းခေါ်တွင်မည်) တစ်ခု တည်ဆောက်ပေးရန် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြခြင်း ဖြစ်ပါသည်။

စာချုပ်ဝင်များသည် အောက်ပါအတိုင်း သဘောတူညီကြပါသည်-

၁။ **ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်**

၁-၁။ Fiber Cable များအား ချခင်းခြင်းပြုလုပ်ရာတွင် ပုံမှန်အားဖြင့် Fiber Core များ ( 12 Core, 24 Core, 48 Core, 96 Core ) ထည့်သွင်းပါဝင်ပြီးဖြစ်သော Standard Cable များကို အကျယ်(၁)ပေခွဲမှ (၂)ပေခန့်နှင့် အနက်(၃)ပေမှ (၅)ပေ မြောင်းများတူး၍ ခင်းကျင်းပါသည်။ ထိုသို့ဆောင်ရွက်ခြင်းသည် မြောင်းများအတွင်း Fiber Cable များ၊ ၃/၄ချောင်းခန့်သာ ထည့်သွင်းခင်းကျင်းနိုင်သဖြင့် ထပ်မံလိုအပ်ချက်များရှိလာပါက ၄င်းနည်းလမ်းအတိုင်းမြောင်းများထပ်မံတူးဖော်၍

ဆောင်ရွက်ရမည်ဖြစ်ပါသည်။ ယခုကမ္ဘာ့နိုင်ငံကြီးများတွင် ၄င်းနည်းပညာအစား Micro Trenching နည်းပညာ၊ Micro Duct နည်းပညာနှင့် Blown Fiber နည်းလမ်းတို့ကိုအသုံးပြုနေကြပြီ ဖြစ်ပါသည်။

၁-၂။ Eager အနေဖြင့် မန္တလေးမြို့တော်စည်ပင်သာယာနယ်နိမိတ်အတွင်း Micro Duct များအသုံးပြုပြီး ဆောင်ရွက်မည်ဖြစ်ပါသည်။

၁-၃။ အထက်ပါနည်းစနစ်အရ လမ်းသားအား အနက်(၁၀)လက်မနှင့်အကျယ် (၂.၅)လက်မ ခန့်သာဖြတ်ခွဲပြီး Duct Pipe များကို ချခင်းပါမည်။ ၄င်း Duct Pipe များ အတွင်းသို့ Fiber များကို အသုံးပြုလိုသည့်အခါမှသာ Blowing နည်းပညာဖြင့် (လေ/ရေ)ဖြင့်ထည့်သွင်းခြင်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၁-၄။ Eager Communications Group Company Co.,Ltd အနေဖြင့် အထက်ပါ နည်းပညာအတိုင်းအသုံးပြုပြီး 7 Way Duct (၁)ချောင်းနှင့် 24 Way Duct (၁)ချောင်းတို့အား ခင်းကျင်းမည်ဖြစ်သဖြင့် ၄င်းပိုက်များအတွင်း Fiber များ အပြည့် ထည့်သွင်းမည်ဆိုပါက အောက်ပါအတိုင်း Fiber Core များရရှိမည်ဖြစ်ပြီး တွက်ချက်မှုအရ နှစ်ပေါင်း(၄၀) မှ နှစ်ပေါင်း(၅၀)ခန့် ထပ်မံ၍တိုးချဲ့ရန်မလိုဘဲ လုံလောက်စွာ အသုံးပြုနိုင်မည်ဖြစ်ပါသည်-

| | | |
|---|---|---|
| 7 Way Duct x 96 Core Fiber | = | 672 Core |
| 24 Way Duct x 24 Core Fiber | = | 1,056 Core |
| **စုစုပေါင်းFiber Core** | **=** | **1,728 Core** |

၁-၅။ လုပ်ငန်းများ ဆောင်ရွက်ရာတွင် အောက်ပါစက်ပစ္စည်းများကို အသုံးပြု ဆောင်ရွက် မည်ဖြစ်ပါသည်။

Vermeer EZ Ground Penetration Radar (အမေရိကန်နိုင်ငံထုတ်)

Vermeer RTX-550 Trenching Machine (အမေရိကန်နိုင်ငံထုတ်)

Marais RT-80 Trenching Machine (ပြင်သစ်နိုင်ငံထုတ်)

7 Way, 24 Way Micro Duct များ (Emtelle – အင်္ဂလန်နိုင်ငံထုတ်)

(Duraline - အမေရိကန်နိုင်ငံထုတ်)

(K-Net – ကိုရီးယားနိုင်ငံထုတ်)

Plumet Blowing Machine (ဆွစ်ဇာလန်နိုင်ငံထုတ်)

[illegible] ပစ္စည်းများကိုအသုံးပြုဆောင်ရွက်သဖြင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု အနည်းဆုံးဖြစ်ပြီး၊ လုံခြုံမှုပိုရှိခြင်း၊ Fiber များကို လိုအပ်ချက်ရှိသလို ထည့်သွင်း [illegible] ငန်းများစွာအတွက် သုံးစွဲရန်လုံလောက်မှုရှိခြင်း စသည့် အကျိုးကျေးဇူးများရရှိနိုင်ပါသည်။

## ၂။ တည်ဆောက်မည့်စီမံကိန်းပုံစံ

၂-၁။ တည်ဆောက်မှုကုန်ကျစရိတ်အားလုံးကို Eager မှ ၁၀၀%ရင်းနှီးဆောင်ရွက်ပါမည်။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ-

| | | | | |
|---|---|---|---|---|
| (က) | ပထမနှစ် | ၂၅၀ ကီလိုမီတာ | US $ | ၅ သန်း |
| (ခ) | ဒုတိယနှစ် | ၂၅၀ ကီလိုမီတာ | US $ | ၅ သန်း |
| (ဂ) | တတိယနှစ် | ၂၅၀ ကီလိုမီတာ | US $ | ၅ သန်း |
| | **စုစုပေါင်း** | **၇၅၀ ကီလိုမီတာ** | **US $** | **၁၅ သန်း** |

၂-၂။ Fiber Network ကြီးတစ်ခုလုံးအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင်အဖြစ်သတ်မှတ်ပြီး Eager အနေဖြင့် အောက်ပါအတိုင်း (Build Transfer Operate) B.T.O စနစ်ဖြင့်လွှဲပြောင်း ရယူဆောင်ရွက်ပါမည်-

(က) စီမံကိန်းတည်ဆောက်ချိန် (၃)နှစ်တွင် အောက်ပါအတိုင်း ဆောင်ရွက်ပါမည်-

(၁) ၂၀၁၆ခုနှစ်(မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ သတ်မှတ်ပေးသည့် ကီလိုမီတာ ၂၅၀ ထက်မပိုသော Fiber Network နှင့် တိုင်းဒေသကြီးအစိုးရမှလိုအပ်ချက်အရသတ်မှတ်ပေးသည့်လမ်းကြောင်းအား ခင်းကျင်းရမည်)

(၂) ၂၀၁၇ ခုနှစ် လိုအပ်ချက်အရ ကီလိုမီတာ (၂၅၀) Fiber Network

(၃) ၂၀၁၈ ခုနှစ် လိုအပ်ချက်အရ ကီလိုမီတာ (၂၅၀) Fiber Network

(ခ) လုပ်ငန်းအားလုံးပြီးစီးချိန်တွင် Fiber Network တစ်ခုလုံးနှင့် ဆက်စပ်ပစ္စည်းများအား မန္တလေးမြို့တော်စည်ပင်ပိုင်အဖြစ် Eager မှ သတ်မှတ်ပြီးဖြစ်သည့်အတွက် မန္တလေးမြို့တော်စည်ပင်သို့ အပ်နှံပြီးမှ လုပ်ငန်းဆောင်ရွက်ရမည်။

(ဂ) ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ချိန် နှစ်(၂၀)(၂၀၁၉ ခုနှစ်မှ ၂၀၃၉ ခုနှစ်ထိ) ( Eager မှ ရယူဆောင်ရွက်ခြင်း)

(ဃ) ၂၀၃၉ ခုနှစ်မှ ၂၀၄၉ ခုနှစ်အထိ ကာလအပိုင်းအခြား (၁၀)နှစ်တွင် Eager မှ အသားတင်အကျိုးအမြတ်၏ ၆၀% မန္တလေးမြို့တော်စည်ပင်သာယာရေး ကော်မတီမှ ၄၀%တို့အား အသီးသီးခွဲဝေရယူကြမည်ဖြစ်ပါသည်။

(င) လုပ်ငန်းလိုအပ်ချက်များအရ Fiber 48 Core ထက်မနည်း 1728 Core ထက်မများသော ဖိုက်ဘာကြိုးမျှင်များအား ချခင်းဆက်သွယ်ရမည်။ (လိုအပ်ချက်အရ ထပ်မံတိုးချဲ့တပ်ဆင်ရမည်ဆိုပါက ကော်မတီသို့ တင်ပြ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည်။)

၃။ **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ တာဝန်များ**

၃-၁။ စီမံကိန်းလုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်သော မန္တလေးမြို့တော်စည်ပင်ပိုင် အဆောက်အအုံ၊ မြေနေရာတို့အား မန္တလေးမြို့တော်စည်ပင်၏ ခွင့်ပြုချက်နှင့် သင့်တင့် လျောက်ပတ်သောနှုန်းထားဖြင့် သီးခြားသဘောတူစာချုပ်များချုပ်ဆိုကာ ငှားရမ်း အသုံးပြုခွင့်ပေးရမည်။

၃-၂။ စီမံကိန်းအောင်မြင်စွာ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် သက်ဆိုင်ရာအစိုးရဌာန များမှ ခွင့်ပြုချက်များလိုအပ်ပါက ကူညီဆောင်ရွက်ပေးရမည်။

၄။ **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ ရပိုင်ခွင့်များ**

၄-၁။ ဤစာချုပ်ပါ Fiber Network ကြိုးတစ်ခုလုံးသည် မန္တလေးမြို့တော်စည်ပင်မှ ၁၀၀% ပိုင်ဆိုင်သော Network ဖြစ်ပြီး Eager သို့ (Build Transfer Operate) B.T.O စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုထားခြင်းဖြစ်ပါသည်။

၄-၂။ စာချုပ်သက်တမ်းကာလအတွင်း Fiber 12 Core အား မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် Fiber 24 Core အား မန္တလေးမြို့တော်စည်ပင်တို့ကို အခမဲ့ အသုံးပြု နိုင်ရန်အတွက် သီးခြားဆက်ကြောင်းအဖြစ် ရရှိမည်။

၄-၃။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် မူလရရှိထားသော 12 Core အား သုံးစွဲ၍ လုံလောက်မှုမရှိခဲ့ပါက ထပ်မံ၍ Fiber 12 Core (စုစုပေါင်း Fiber(24 Core) အခမဲ့အသုံးပြုခွင့် ရရှိပါမည်။)

၄။ Fiber Network နှင့်ဆက်စပ်ပစ္စည်းများချို့ယွင်းပျက်စီးမှု ဖြစ်ပေါ်လာပါက စာချုပ် သက်တမ်းတစ်လျှောက် အခမဲ့ပြုပြင်ထိန်းသိမ်း ပေးပါမည်။ အချိန်(၄)နာရီအတွင်း အပြီးပြင်ဆင်ပေးပါမည်။

၄-၅။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနယ်နိမိတ်အတွင်း တိုင်းဒေသကြီးအစိုးရနှင့်မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီတို့အသုံးပြုလိုသည့် မည်သည့်နေရာကိုမဆို ၄င်း Fiber ကြိုးမျှင်ကို သွယ်တန်းရရှိပါမည်။

၄-၆။ ၂၀၃၉ ခုနှစ်မှ ၂၀၄၉ ခုနှစ်အထိ ကာလအပိုင်းအခြား (၁၀)နှစ် တွင် Eager မှ အသားတင် အကျိုးအမြတ်၏ ၆၀% နှင့်မန္တလေးမြို့တော်စည်ပင်မှ ၄၀% တို့အား အသီးသီးခွဲဝေရယူကြမည်ဖြစ်ပါသည်။

၅။ **Eager ၏တာဝန်များ**

၅-၁။ Trenching ပြုလုပ်မှုကို ကုမ္ပဏီမှ တာဝန်ယူဆောင်ရွက်ပြီး၄င်း Trenching မြောင်းများအတွင်း Duct များခင်းကျင်းခြင်း (Duct Laying)၊ ဘိလပ်မြေ Chemical ရောစပ်၍ ပြန်လည်ဖြည့်တင်းခြင်း၊ (Back Filling) လုပ်ငန်းစဉ်များနှင့်အခြားမန္တလေးမြို့တော်စည်ပင်ဆက်စပ်လုပ်ငန်းများအားလုံးအတွက်မန္တလေးမြို့တော်စည်ပင်မှ ပြန်လည်တာဝန်ယူဆောင်ရွက်ပေးနိုင်မည်ဆိုပါက (၁) ကီလိုမီတာလျှင် သတ်မှတ်သည့် ကုန်ကျစရိတ်အတိုင်း ကုမ္ပဏီမှ ပေးချေ၍ လုပ်ငန်း အပ်နှံဆောင်ရွက်ပါမည်။

၅-၂။ Fiber Network ထိန်းသိမ်းပြုပြင်ခြင်းသင်တန်းများကိုလည်း မန္တလေးမြို့တော်စည်ပင်မှ လက်တွေ့ ဆောင်ရွက်နိုင်သည်အထိ သင်ကြားလေ့ကျင့်ပေးပါမည်။

၆။ **စီမံကိန်း၏အကျိုးကျေးဇူး**

၆-၁။ Fiber Network ကြီးတစ်ခုလုံးကို မူရင်းပိုင်ဆိုင်သူသည် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီဖြစ်သည့်အတွက် တိုင်းဒေသကြီးသာမကနိုင်ငံတော် အတွက်ပါ အကျိုးကျေးဇူး ရရှိမည် ဖြစ်ပါသည်။

၆-၂။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် မန္တလေးမြို့တော်စည်ပင်ပိုင် Fiber Netowrk ရရှိသည့်အတွက် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနယ်နိမိတ် အတွင်း တိုင်းဒေသကြီးအစိုးရရုံးဌာနများနှင့် အခြားရုံးဌာနများ အတွက် e-Government System တည်ဆောက်အသုံးပြုနိုင်မည်ဖြစ်ပြီး G to G၊ G to P နှင့် G to C ဆက်သွယ်ဆောင်ရွက်မှုများတွင် Online ဖြင့်လျှင်မြန်လွယ်ကူစွာအသုံးပြု နိုင်မည် ဖြစ်ပါသည်။

၆-၃။ e-Government လုပ်ငန်းစဉ်အတွက် Network Plan များရေးဆွဲရာတွင် ကုမ္ပဏီမှ ကူညီဆောင်ရွက်လာမည်ဖြစ်၍ ပိုမိုကောင်းမွန်၍ အရည်အသွေး ပြည့်မီသော Network Design တစ်ခုရရှိမည်ဖြစ်ပါသည်။

၆-၄။ ဆက်သွယ်ရေးဝန်ဆောင်မှုများ၊ (Internet,E-mail, Data etc.) ဖျော်ဖြေရေး ဝန်ဆောင်မှု၊ (IPTV, Video etc.) ဆောင်ရွက်မည့်ကုမ္ပဏီများအနေဖြင့် များစွာသုံးစွဲနိုင်ခြင်းကြောင့် အရည်အသွေးပိုမိုကောင်းမွန်သည့်စနစ်များ တပ်ဆင်နိုင်သဖြင့် သုံးစွဲသူပြည်သူများအတွက် ပိုမိုအကျိုးဖြစ်ထွန်းပါမည်။

၆-၅။ အများပြည်သူသွားလာရာနေရာများ၊ လူစည်ကားရာနေရာများတွင် CCTV လုံခြုံရေးကင်မရာများ တပ်ဆင်၍ လုံခြုံမှုပေးနိုင်ပါသည်။ 24/7 လုံခြုံမှုစနစ်ကို စောင့်ကြည့်နိုင်မည်ဖြစ်ပါသည်။

၆-၆။ မီးသတ်ဦးစီးဌာနအတွက် Control and Commend Network အဖြစ် အသုံးပြုနိုင်ပါသည်။

၆-၇။ Digital စနစ်ဖြင့် လျှပ်စစ်မီတာခများ၊ ရေမီတာခများ ကောက်ခံနိုင်ပါသည်။

၆-၈။ ဘဏ်များ၊ ATM စက်များ၊ Super Markets များအတွက် Credit Cards ၊ Debit Cards များသုံးစွဲရာတွင် ပိုမိုလျှင်မြန်လွယ်ကူစေမည်ဖြစ်သည့်အတွက် On line သုံး Banking System ကို ဖြစ်ပေါ်စေမည်ဖြစ်ပါသည်။

၆-၉။ အခြေခံကျောင်းများနှင့် တက္ကသိုလ်များအတွက် အဆင့်မြင့်ပညာသင်ကြားမှု ကွန်ပျူတာ Network များ တည်ဆောက်အသုံးပြု သင်ကြားနိုင်ပါသည်။

၆-၁၀။ကျန်းမာရေးဝန်ကြီးဌာနအတွက် ပြည်သူ့ဆေးရုံကြီးများအချင်းချင်း Network များ တည်ဆောက်၍ ကုသမှုအထောက်အကူပေးခြင်းနှင့် လက်တွေ့သင်ကြားမှု အစီအစဉ်များ ဆောင်ရွက်နိုင်ပါသည်။

## ၇။ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း

စာချုပ်ဝင်များသည် ဤစာချုပ်အား ချုပ်ဆိုဆောင်ရွက်ရန်အလို့ငှာ ငွေကြေးအင်အားပြည့်စုံပြီး လုပ်ပိုင်ခွင့်အာဏာရှိသူများဖြစ်ကြကြောင်း အသီးသီးကိုယ်စားပြုအာမခံကြပါသည်။

၈။ **စာချုပ်အကျိုးသက်ရောက်ခြင်း**

ဤစာချုပ်သည် စာချုပ်ဝင်များက လက်မှတ်ရေးထိုးသည့်နေ့တွင် စတင်အကျိုး သက်ရောက်စေ သည်။

၉။ **စာချုပ်လွှာရုပ်စဲခြင်း**

၉-၁။ ဤစာချုပ်အား အောက်ပါအခြေအနေတရပ်ရပ်ပေါ်ပေါက်လာပါက မည်သည့် စာချုပ်ဝင်ကမဆို ရက်ပေါင်း(၂၁)ရက် ကြိုတင်၍စာဖြင့် အကြောင်းကြားပြီး ရုပ်စဲ နိုင်သည်-

(၁) စာချုပ်ပါလုပ်ငန်းများကို သတ်မှတ်အချိန်ကာလနှင့် စံချိန်စံညွှန်းများအတိုင်း ပြည့်ဝစွာ အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု မရှိခြင်း၊

(၂) စာချုပ်ဝင်တစ်ဖက်ဖက်မှ ဤစာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်အား ဖောက်ဖျက်ခြင်း၊

(၃) စာချုပ်အား ရုပ်စဲရန် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့မှ သဘောတူခြင်း၊

(၄) မမျှော်မှန်းနိုင်သောဖြစ်ရပ်သည် တစ်ဆက်တစ်စပ်တည်း(၆)လထက်ကျော်လွန် ၍ ဖြစ်ပွားနေခြင်း၊

၁၀။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၀-၁။ဤစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များ ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေး ကြန့်ကြာခြင်းများ ဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်နှင့်အညီဖြစ်ပါက နှစ်ဦးနှစ်ဖက်ကင်းလွတ်ခွင့်ပြုရမည်။ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် တစ်ဖက်မှ မိမိလိုက်နာဆောင်ရွက်ရမည့်တာဝန် တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ ဆိုင်ငံ့ရမည့်အခြေအနေပေါ်ပေါက်လာလျှင် ထိုသို့ဆိုင်းငံ့ရမည့်ဖြစ်ရပ်နှင့် ဖြစ်တန်ရာ သည့် ကာလတို့ကိုဖော်ပြလျက် ထိုဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက် အတွင်း နစ်နာသူ အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြားရမည်။ ထိုသို့ အကြောင်းကြား ခြင်းကို အခြားတစ်ဖက်မှ အတည်ပြုလက်ခံမှသာလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ် မြောက်ပြီး ထိုနစ်နာသော အချိန်ကာလအတွက် တာဝန်ဝတ္တရားများ ရပ်ဆိုင်းရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေများကို အမြန်ဆုံး ကျော်လွှားနိုင်အောင် ဆောင်ရွက်

ရမည်။ မလွန်ဆန်နိုင်သော ဖြစ်ရပ်မှ ပေါ်ပေါက်လာသည့် ကြန့်ကြာမှု၊ ဆုံးရှုံးမှုများ အတွက် မည်သည့်ဘက်တွင်မှ တာဝန်မရှိစေရ။

၁၀-၂။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးမှုနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြားခြင်း၊ သဘာဝဘေးအန္တရာယ်ကျရောက်ခြင်း၊ သပိတ်မှောက်ခြင်း၊ အလုပ်သမားများ၏ နှောင့်ယှက်ခြင်း၊ စစ်ဖြစ်ပွားခြင်း၊ ပိတ်ဆို့မှု၊ ဆူပူမှု၊ ကူးစက်ရောဂါဖြစ်ပွားမှု၊ မြေပြိုမှု၊ လျှော်လှုပ်ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြိုးပစ်ခြင်း၊ ရေကြီးခြင်း၊ ပေါက်ကွဲခြင်းနှင့် အခြားအလားတူ ထိန်းချုပ်၍မရနိုင်သော ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဘက်ကမျှ ကြိုးစားအားထုတ်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များ ပါဝင်သည်။

## ၁၁။ ပြန်လည်ညှိနှိုင်းခြင်းနှင့် စာချုပ်အားပြင်ဆင်ခြင်း

ဤစာချုပ်တွင်မမျှော်မှန်းနိုင်သော အခြေအနေကြောင့် အကြောင်းတစ်ရပ်ရပ်ပေါ်ပေါက်လာလျှင် စာချုပ်ဝင်များသည် လိုအပ်သော ညှိနှိုင်းဆွေးနွေးမှုများကို ပြုလုပ်ရမည်။ စာချုပ်ဝင်များ၏ စာဖြင့်ရေးသား၍ အပြန်အလှန်သဘောတူညီမှု မပါရှိပဲ စာချုပ်အားပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း မပြုလုပ်ရ။

## ၁၂။ လျှို့ဝှက်ထိန်းသိမ်းခြင်း

စာချုပ်ဝင်တို့သည် စာချုပ်သက်တမ်းကာလအတွင်း တစ်ဖက်စာချုပ်ဝင်ထံမှ ရရှိသော သတင်းအချက်အလက်များကို လျှို့ဝှက်ထိန်းသိမ်းထားရှိရမည်။ အဆိုပါသတင်း အချက်အလက်များကို ဤစာချုပ်ပါရည်ရွယ်ချက်များအတွက်သာလျှင်သုံးစွဲရန်ဖြစ်ပြီး အခြားတတိယ ပုဂ္ဂိုလ်တစ်ဦးဦးထံသို့ လွှဲပြောင်းခြင်းမပြုရ။

## ၁၃။ ဆက်သွယ်ဆောင်ရွက်ခြင်း

၁၃-၁။ ဤစာချုပ်အရ စာချုပ်ဝင်တစ်ဦးနှင့်တစ်ဦးကြားအကြောင်းကြားခြင်း၊ ဆက်သွယ်ခြင်းများကို အောက်ဖော်ပြပါ လိပ်စာများသို့ စာဖြင့်ရေးသားဆက်သွယ်ရမည်-

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ လိပ်စာ

အကွက်အမှတ်(၇၂၈)၊ ၂၆လမ်းနှင့်၂၇လမ်းကြား၊ ၇၁လမ်းနှင့် ၇၂လမ်းကြား၊ ပါတ်ကုန်းဝန်းကျင်ရပ်ကွက်၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။
ဖုန်း/ဖက်စ်နံပါတ် +95 2 64754/ +95 2 36170

**Eager ၏ လိပ်စာ**

တိုက်အမှတ်-စီ၆၊ (၄)လွှာ၊ မင်းဓမ္မအိမ်ရာ၊ မင်းဓမ္မလမ်း၊ မရမ်းကုန်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ဖုန်း/ဖက်စ်နံပါတ် +95 1 652407

၁၃-၂။ စာချုပ်ဝင်များသည် လိပ်စာပြောင်းလဲမှုရှိသည့်အခါတိုင်း အခြားစာချုပ်ဝင်ထံ အဆိုပါပြောင်းလဲမှုအား စာဖြင့်ရေးသား အကြောင်းကြားရမည်ဖြစ်ပြီး ထိုသို့ အကြောင်းကြားမှုသည် လက်ခံရရှိသည့်အခါတွင် အကျိုးသက်ရောက်သည်။

၁၄။ **အငြင်းပွားမှုဖြေရှင်းခြင်း**

ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာညှိနှိုင်းဖြေရှင်းရမည်။ အငြင်းပွားမှုအားငြိမ်းချမ်းစွာဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို ၂၀၁၆ခုနှစ် အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီဖြေရှင်းဆောင်ရွက်ရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မန္တလေးမြို့ဖြစ်စေရမည်။

၁၅။ **ကုန်ကျစရိတ်များ**

ဤစာချုပ်စာချုပ်နှင့်စပ်လျဉ်းသည့်ပြင်ဆင်ဆောင်ရွက်ခြင်း၊ ဆွေးနွေးညှိနှိုင်းခြင်း၊ ချုပ်ဆိုခြင်းတို့အတွက် စာချုပ်ဝင်တစ်ဦးစီ၏ ကုန်ကျစရိတ်အသီးသီးကို သက်ဆိုင်ရာစာချုပ်ဝင်က ကျခံရမည်။ ပြီးပြည့်စုံသောသဘောတူစာချုပ်များအား ပြင်ဆင်ခြင်းအတွက် ကုန်ကျစရိတ်များကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ အညီအမျှကျခံရမည်။

၁၆။ **လွှဲအပ်ခြင်း**

ဤစာချုပ်ပါ လုပ်ပိုင်ခွင့်နှင့် သို့မဟုတ် အခွင့်အရေးတစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ မည်သည့်စာချုပ်ဝင်ကမျှ အခြားတတိယပုဂ္ဂိုလ်တစ်ဦးဦးထံသို့ လွှဲပြောင်းခွင့် မရှိပါ။

၁၇။ **မူရင်းခွဲများ**

ဤစာချုပ်အား မူရင်းခွဲ(၄)စုံ ပြုလုပ်၍ လက်မှတ်ရေးထိုး ချုပ်ဆိုကြပြီး အဆိုပါမူရင်းခွဲတို့ကို မူရင်းများအဖြစ် သတ်မှတ်ရမည်။

သက်သေထင်ရှားစိမ့်သောငှာ စာချုပ်ဝင်များသည် ဤသဘောတူစာချုပ်အား အထက်တွင် ဖော်ပြခဲ့သောရက်နေ့တွင် အသီးသီး လက်မှတ်ရေးထိုး တံဆိပ်ခတ်နှိပ်ကြပါသည်။

K 50000

Eager Communications Group Co.,Ltd

(ကိုယ်စား)

အမည်- ဦးသက်နိုင်ထွန်း
ရာထူး- တွဲဖက်အတွင်းရေးမှူး
ဌာန - မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

အမည်- ဦးကွဲ့ဒီလှ
ရာထူး- ဥက္ကဋ္ဌ
နေရပ်လိပ်စာ-တိုက်အမှတ်(စီ/၆)၊(၅)လွှာ၊ မင်းမွေအိမ်ယာဝင်း၊မင်းမွေလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

## အသိသက်သေများ

(၁)

အမည်- ဦးစောထွန်းဦး
ရာထူး- ဌာနမှူး၊စီမံရေးရာဌာန
ဌာန - မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

(၁)

အမည်- ဦးမောင်မောင်ရွှေမိုး
ရာထူး- Chief Operating Officer
နေရပ်လိပ်စာ-အမှတ်(၂၅)၊သရက်တောလမ်း လင်းလွန်း(မြောက်)ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၂)

အမည်- ဦးကျော်လင်းငြိမ်း
ရာထူး- Chief Information Officer
ဌာန - မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

(၂)

အမည်- ဦးကျော်ဝင်း
ရာထူး- အုပ်ချုပ်မှုမန်နေဂျာ(အထက်မြန်မာပြည်)
နေရပ်လိပ်စာ-အမှတ်(၃၀)၊ဇေ(၂၉)ထွန်တုံး ရပ်ကွက်၊ မနော်ဟာရီလမ်းနှင့် ငကျွဲလမ်းကြား၊ ၄၉လမ်း နှင့် လမ်း၅၀ကြား၊ ချမ်းမြသာစည် မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

REPUBLIC OF THE UNION OF MYANMAR

REVENUE STAMP

K 300

# ရုံးခန်း ငှားရမ်းခြင်းကတိစာချုပ်

ရက်စွဲ။ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၊ (၃၁) ရက်

ပိုင်ရှင် ။ ။ အမည် - ဦးစိုးမြင့်သန်း (မှတ်ပုံတင်အမှတ် ၁၀/အလမ(နိုင်) ၅၄၀၄၉၇)

လိပ်စာ - 12-13 (A)၊ ဇောတိရိပ်သာ၊ မဟာစည်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်။

ငှားရမ်းလိုသူ ။ ။ အမည် - Eager Communications Group Co.,Ltd (ကိုယ်စား ဦးကံအောင်)

(မှတ်ပုံတင်အမှတ် ၁၀/မဒန(နိုင်)၀၁၂၅၁၂)

လိပ်စာ - T-5 ရွှေမဥ္ဇူလမ်း၊ ရွှေပုန်းညက်ရိပ်မွန်၊ ကမာရွတ်မြို့နယ်။

၁။ အထက်ဖော်ပြပါ ပိုင်ရှင်ပိုင်ဆိုင်သော ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်း၊ မင်းဓမ္မအိမ်ရာ၊ Building (C-6)၊ ၄လွှာဟု ခေါ်တွင်သောရုံးခန်းအား (၁)လလျှင် ငွေကျပ် ၁၁,၀၀၀,၀၀၀/- (ကျပ်သိန်းတစ်ရာတစ်ဆယ်တိတိ) နှုန်းဖြင့် (၁.၁.၂၀၁၆) မှ (၃၁.၁၂.၂၀၁၆) နေ့ထိ (၁၂ လ)၊ နှစ်ကာလအတွက် ကျသင့်ငွေပေါင်း ငွေကျပ် ၁၃၂,၀၀၀,၀၀၀/- (ကျပ်သိန်းတစ်ထောင်သုံးရာနှစ်ဆယ်တိတိ) အား ငှားရမ်းသူမှ ပေးချေရာ ပိုင်ရှင်မှ ကောင်းမွန်စွာ လက်ခံရရှိပါကြောင်း ဝန်ခံပါသည်။

၂။ ငှားရမ်းသည့်သက်တမ်းသည် (၁.၁.၂၀၁၆) မှ (၃၁.၁၂.၂၀၁၆) နေ့ထိ နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။

၃။ - ငှားရမ်းစဉ်ကာလအတွင်း ကျသင့်သောအခွန်အခများကို ငှားရမ်းသူကသာ ပေးဆောင်ရန် သဘောတူပါသည်။

၄။ ပိုင်ရှင်ကသော်လည်းကောင်း၊ ငှားရမ်းသူမှသော်လည်းကောင်း၊ မငှားရမ်းလို၊ မနေလိုကြပါလျှင် တစ်ဦးကို တစ်ဦး စာချုပ်မပြည့်မီ (၁)လ ကြိုတင်အကြောင်းကြားရပါမည်။

၅။ ငှားရမ်းသူမှဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းမပြည့်မီ (၁)လကြိုတင်၍ ဈေးနှုန်းညှိနှိုင်း ငွေချေ စာချုပ်အသစ် ထပ်မံချုပ်ဆိုရပါမည်။

၆။ စာချုပ်သက်တမ်းပြည့်သော (၃၁.၁၂.၂၀၁၆)နေ့တွင် ရုံးခန်းအား မူလငှားရမ်းစဉ်ကအခြေအနေအတိုင်း ပိုင်ရှင်သို့ ပြန်လည်အပ်နှံရပါမည်။

REPUBLIC OF THE UNION OF MYANMAR
REVENUE STAMP
K 300

၇။ ငှားရမ်းသူသည် ရုံးခန်းအား ရောင်းချခြင်း၊ တဆင့်လွှဲပြောင်းခြင်း၊ တဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း ပြင်ဆင်ခြင်းများ မပြုလုပ်ရန် သဘောတူပါသည်။

၈။ ငှားရမ်းသူသည် ဥပဒေနှင့်မလွတ်ကင်းသော လုပ်ငန်းများမလုပ်ကိုင်ရန် သဘောတူပါသည်။ အကယ်၍ လုပ်ကိုင်ခဲ့သော် ဖြစ်ပေါ်လာသော ကိစ္စအဝဝတို့သည် ပိုင်ရှင်နှင့် လုံးဝပတ်သက်ခြင်းမရှိပဲ၊ ငှားရမ်းသူ၏တာဝန်သာ ဖြစ်ကြောင်း သဘောတူပါသည်။

အထက်ပါအချက်အလက်များအား နှစ်ဦးနှစ်ဖက်ဖတ်ရှုပြီး သဘောတူကျေနပ်ကြပါသဖြင့် အောက်ပါအသိသက်သေများရှေ့တွင် လက်မှတ်ရေးထိုး စာချုပ်ချုပ်ဆိုကြပါသည်။

| ပိုင်ရှင် | | ငှားရမ်းလိုသူ | |
|---|---|---|---|
| အမည် | - | အမည် | - |
| မှတ်ပုံတင်အမှတ် | - | မှတ်ပုံတင်အမှတ် | - |

**အသိသက်သေများ**

| | | | |
|---|---|---|---|
| အမည် | - | အမည် | - |
| မှတ်ပုံတင်အမှတ် | - | မှတ်ပုံတင်အမှတ် | - |

၂၀၀၀၀

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

နှင့်

# EAGER COMMUNICATIONS GROUP CO., LTD

တို့အကြား ချုပ်ဆိုသည့်

# အဆောက်အဦး ငှားရမ်းခြင်း သဘောတူကတိစာချုပ်

စာချုပ်အမှတ်စဉ် ( ၁ /၂၀၁၆)

ရက်စွဲ။ ၂၀၁၆ ခုနှစ်၊ ဧပြီ လ ( ၅ )ရက်

## မာတိကာ

## မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ နှင့်

## Eager Communications Group Co., Ltd.

## တို့အကြား ချုပ်ဆိုသည့် အဆောက်အဦးငှားရမ်းခြင်း သဘောတူကတိစာချုပ်

ရက်စွဲ။ ၅ ၊ ၄ ၊ ၂၀၁၆

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီကို ကိုယ်စားပြုသော ဌာနမှူး၊ စီမံရေးရာဌာန၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီရုံး (နောင်တွင် အငှားချထားသူ ဟု ခေါ်တွင်သူ)က တစ်ဖက်နှင့် -

Eager Communications Group Co., Ltd. ကို ကိုယ်စားပြုသော ဦးကျော်ဝင်း၊ အုပ်ချုပ်မှုမန်နေဂျာ (အထက်မြန်မာပြည်)၊ Eager Communications Group Co., Ltd. (နောင်တွင် အငှားချထားခြင်းခံရသူဟု ခေါ်တွင်သူ)က အခြားတစ်ဖက် -

တို့သည် ဤအဆောက်အဦးငှားရမ်းခြင်းကတိစာချုပ်ကို ၂၀၁၆ ခုနှစ်၊ ဧပြီလ(၁)ရက်နေ့တွင် မန္တလေးမြို့၌ လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

"အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"ဟု ဆိုရာတွင် ၎င်းတို့ကိုယ်တိုင်နှင့် ၎င်းတို့၏ ကော်မတီအဖွဲ့ဝင်များ၊ ဒါရိုက်တာအဖွဲ့၊ တရားဝင်ကိုယ်စားလှယ်များ၊ ရာထူးအလျောက်ဆက်ခံသူများ၊ ယုံကြည်အပ်နှံခံရသူများ၊ တရားဝင်လွှဲပြောင်းဆက်ခံသူများ ပါဝင်သက်ဆိုင်သည်ဟု မှတ်ယူရမည်။

### အပိုင်း(၁)

### အငှားချထားသည့်အဆောက်အဦး

မန္တလေးမြို့၊ ပြည်ကြီးတံခွန်မြို့နယ်၊ ချမ်းမြသာယာရပ်ကွက်၊ အကွက်အမှတ်(၃၁၂-ခ/၄၁၀)၊ ဦးပိုင်အမှတ်(၈-ခ)၊ ဧရိယာ(၀. ၂၁၈၄)ဧကရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ ပိုင်ဆိုင်စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေကွက်ပေါ်တွင် ဆောက်လုပ်ထားရှိသည့် (၃၆'×၄၀')နှင့် (၂၀'×၄၀') အဆောက်အဦး(၂)ခုဖြစ်ပါသည်။

၂၀၁၆ ခုနှစ်၊ ဧပြီလ (၁)ရက်နေ့မှစ၍ ၂၀၁၉ ခုနှစ်၊ မတ်လ (၃၁)ရက်နေ့အထိ (၃)နှစ်ကာလ ဖြစ်ပါသည်။

## အပိုင်း(၃)

## ငှားရမ်းခနှင့် ငှားရမ်းခပေးချေခြင်း

အငှားချထားသည့် အဆောက်အဦး(၂)ခုအတွက် ငှားရမ်းခအဖြစ် (၁)လလျှင် ငွေကျပ်(၁၅)သိန်း သဘောတူသတ်မှတ်၍ အငှားချထားခြင်းခံရသူက အငှားချထားသူသို့ ပေးချေရမည်ဖြစ်ပါသည်။

ငှားရမ်းခကို (၁)လလျှင် ငွေကျပ်(၁၅)သိန်းနှုန်းဖြင့် (၁)နှစ်လျှင် တစ်ကြိမ်၊ (၁၂)လစာအတွက် ငွေကျပ် သိန်း(၁၈၀)အား သက်ဆိုင်ရာဘဏ္ဍာရေးနှစ်၏ ဧပြီလ (၁)ရက်နေ့မှ (၇)ရက်နေ့အတွင်း အငှားချထားခြင်း ခံရသူမှ အငှားချထားသူသို့ အပြီးပေးချေရမည်ဖြစ်ပါသည်။

## အပိုင်း(၄)

## အငှားချထားသည့်ကာလတိုးမြှင့်ခြင်းနှင့် ငှားရမ်းခနှုန်းထားပြန်လည်သတ်မှတ်ခြင်း

အငှားချထားသည့်ကာလ မကုန်ဆုံးမီ အငှားချထားသူ သို့မဟုတ် အငှားချထားခြင်းခံရသူ တစ်ဖက်ဖက်မှ အငှားချထားသည့်ကာလသက်တမ်းတိုးမြှင့်ဆောင်ရွက်လိုပါက (၃)လကြိုတင်၍ တစ်ဖက်သို့ အကြောင်းကြားဆောင်ရွက်ရန် ဖြစ်ပါသည်။ အငှားချထားသည့်ကာလ ထပ်မံတိုးမြှင့်ဆောင်ရွက်ရန် နှစ်ဦး နှစ်ဖက်သဘောတူပြီးပါက တိုးမြှင့်မည့်သက်တမ်းနှင့် ငှားရမ်းခနှုန်းထားတို့ကို နှစ်ဦးနှစ်ဖက်ထပ်မံညှိနှိုင်းပြီး အငှားချထားခြင်း သဘောတူညီမှု ကတိစာချုပ် ထပ်မံချုပ်ဆိုရန် ဖြစ်ပါသည်။

## အပိုင်း(၅)

## အငှားချထားခြင်းဆိုင်ရာ စည်းကမ်းချက်များ

(၁) အငှားချထားခြင်းခံရသူမှ အငှားချထားသည့်အဆောက်အဦးကို မိမိ၏ လုပ်ငန်းအတွက် အသုံးပြုရန် ပြင်ဆင်ခြင်း၊ မွမ်းမံခြင်းတို့ကို ဆောင်ရွက်လိုပါက အငှားချထားသူ၏ ခွင့်ပြုချက်ရရှိမှသာလျှင် ဆောင်ရွက်ခွင့်ရှိစေရမည်။

(၂) အငှားချထားသည့် အဆောက်အဦးကို ပြင်ဆင်ခြင်း၊ မွမ်းမံခြင်း ပြုလုပ်ရာတွင် မူလအဆောက်အဦး၏ ပုံသဏ္ဍာန်ပြောင်းလဲခွင့်မရှိစေရ။

(၃) အငှားချထားခြင်းခံရသူ၏ဆောင်ရွက်မှုကြောင့် အငှားချထားသည့်အဆောက်အဦးနှင့်မြေဥပစာ ပျက်စီးဆုံးရှုံးခြင်း ဖြစ်ပေါ်ပါက အငှားချထားသူ၏ သတ်မှတ်ချက်အတိုင်း အငှားချထားခြင်းခံရသူက မိမိ၏စရိတ်ဖြင့် တာဝန်ယူပြင်ဆင်ပေးရမည်။ ပြင်ဆင်ပေးရန် အငှားချထားခြင်းခံရသူက ပျက်ကွက်လျှင် အငှားချထားသူ သတ်မှတ်သည့် ပြင်ဆင်စရိတ်ကို ပေးလျော်ရမည်။

(၄) အငှားချထားသည့်ကာလ စတင်သည့်နေ့မှ ကုန်ဆုံးသည့်နေ့အထိ သက်ဆိုင်ရာဌာနအသီးသီးသို့ ပေးဆောင်ရန် တာဝန်ရှိသည့် လျှပ်စစ်ဓာတ်အား အသုံးပြုခ၊ အရပ်ရပ် အခွန်အခများ (ရေ၊ မိလ္လာ၊ သန့်ရှင်းရေး၊ လမ်း၊ တံတား)ကို အငှားချထားခြင်းခံရသူက တာဝန်ယူပေးဆောင်ရမည်။

(၅) အငှားချထားသည့်ကာလအတွင်း အငှားချထားသည့် အဆောက်အဦးနှင့်ပတ်သက်သည့် ပေးဆောင်ရန်အခွန်အခများကို အငှားချထားခြင်းခံရသူက ပေးသွင်းရန်ကျန်ရှိပါက အငှားချထားသူမှ မြေခွန်မပြေ ကျန်ငွေအဖြစ် သတ်မှတ်၍ အငှားချထားခြင်းခံရသူထံမှ ကောက်ခံပိုင်ခွင့်ရှိစေရမည်။

(၆) အငှားချထားသည့်ကာလအတွင်း အငှားချထားသည့်အဆောက်အဦးတစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ အငှားချထားခြင်းခံရသူက အခြားသူတစ်ဦးတစ်ယောက်ထံသို့ ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ လွှဲပြောင်းခြင်း၊ အသုံးပြုခွင့်ပေးခြင်း မပြုလုပ်ရ။

(၇) အငှားချထားသည့်အဆောက်အဦးနှင့် မြေဥပစာသည် အငှားချထားသူ ပိုင်ဆိုင်စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် အလျောက် မန္တလေးမြို့တော်စည်ပင်သာယာရေးဥပဒေ (၂၀၁၄)၊ ၁၉၅၅ ခုနှစ် အစိုးရအိမ်ဥပစာ (နှင်ထုတ်ခြင်း)အက်ဥပဒေတို့ပါ ပြဋ္ဌာန်းချက်များနှင့် အကျုံးဝင်သက်ဆိုင်စေရမည်။

(၈) အငှားချထားခြင်းခံရသူသည် အငှားချထားသည့်ကာလအတွင်း အငှားချထားသည့်အဆောက်အဦးကို ဥပဒေနှင့်ဆန့်ကျင်သည့်လုပ်ငန်း ဆောင်ရွက်ခြင်းအတွက် အသုံးမပြုရ။ ဥပဒေနှင့်ဆန့်ကျင်သည့် လုပ်ငန်းတစ်ရပ်ရပ် ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာသည့်ကိစ္စရပ်များအတွက် အငှားချထားသူ၏ တာဝန်မရှိစေရ။

(၉) အငှားချထားသူအနေဖြင့် ကျသင့်သည့်မြေခွန်ပေးဆောင်ရမည်။

## အပိုင်း(၆)

### စာချုပ်ရပ်စဲခြင်း

ငှားရမ်းသည့်ကာလ မကုန်ဆုံးမီ စာချုပ်ရပ်ဆိုင်းရန်အတွက် စာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ (၃)လကြိုတင်၍ စာဖြင့် ရေးသားအကြောင်းကြားလျှင် အောက်ပါအကြောင်းတစ်ခုခုဖြစ်ပေါ်ပါက စာချုပ်ရပ်စဲခွင့်ရှိသည်။




(က) နိုင်ငံတော်အစိုးရက (သို့မဟုတ်) မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ ကော်မတီ၏ လိုအပ်ချက်အရ ငှားရမ်းခြင်းကို ရပ်စဲရန် အကြောင်းပေါ်ပေါက်ခြင်း၊

(ခ) အငှားချထားခြင်းခံရသူ ဤစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ခြင်း၊

(ဂ) စာချုပ်ပါ အငှားချထားသည့်ကာလကုန်ဆုံးခြင်း။

အထက်အပိုဒ်ခွဲ(က)အရ စာချုပ်ရပ်စဲရန် အကြောင်းပေါ်ပေါက်ပါက အငှားချထားခြင်းခံရသူမှ အငှားချထားသူသို့ (၁)နှစ်အတွက် ပေးချေထားသည့် ငှားရမ်းခအနက်မှ ကျန်ရှိသည့်ကာလအတွက် ငှားရမ်းခကို ပြန်လည်တောင်းခံပိုင်ခွင့်ရှိသည်။ အထက်အပိုဒ်ခွဲ(ခ)အရ စာချုပ်ရပ်စဲရန် အကြောင်းပေါ်ပေါက်ပါက အငှားချထားသူသို့ ပေးချေထားသည့် (၁)နှစ်အတွက် ငှားရမ်းခအနက် ကျန်ရှိသည့်ကာလအတွက် ငှားရမ်းခကို တောင်းခံပိုင်ခွင့်မရှိစေရ။

## အပိုင်း(၇)

### စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့

အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

## အပိုင်း(၈)

### စာချုပ်အား ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း

ဤစာချုပ်ပါ သဘောတူညီချက်များ ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏ တရားဝင်စာဖြင့် သဘောတူညီချက်အရ ဆောင်ရွက်ခွင့်ရှိသည်။

## အပိုင်း(၉)

### အဆောက်အအုံများပေါ်သို့ ပြန်လည်ဝင်ရောက်နိုင်ခွင့်

အငှားချထားခြင်းခံရသူက ဤအငှားစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သော နို့တစ်စာပါ ကာလများအတွင်း မဆောင်ရွက်မှု(သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူသည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သောအဆောက်အဦးများပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ ဤအငှားစာချုပ်




သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။ ဤသို့ငှားရမ်းမှုရပ်စဲခြင်း၊ မြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရှိမည့်အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

အငှားချထားသူ ပိုင်ဆိုင်စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် အဆောက်အအုံနှင့်မြေဉပစာပေါ်သို့ ပြန်လည်ဝင်ရောက်နိုင်ခွင့် အခွင့်အရေးသည် မန္တလေးမြို့တော်စည်ပင်သာယာရေးဥပဒေ(၂၀၁၄) အခန်း-၂၂ ပါ ပြဋ္ဌာန်းချက်များနှင့်အကျုံးဝင်သက်ဆိုင်စေရမည်။

## အပိုင်း(၁၀)

## မီးဘေးလုံခြုံရေးနှင့်အခြားကိစ္စရပ်များ

(၁) အငှားချထားခြင်းခံရသူသည် ဤစာချုပ်အရ အငှားချထားသော အဆောက်အအုံအတွက် မီးအာမခံထားရှိရမည်။

(၂) အငှားချထားခြင်းခံရသူသည် အဆောက်အအုံကို မီးဘေးလုံခြုံမှုရှိစေရန်အတွက် မီးအေးကာကွယ်ရေးစီမံချက်များ ကြိုတင်ရေးဆွဲထားရှိရမည်ဖြစ်ပြီး လိုအပ်သောအစီအမံများကို စနစ်တကျဆောင်ရွက်ထားရမည်။

(၃) အငှားချထားသော အဆောက်အအုံ(ဉပစာ)ပစ္စည်းများနှင့်ပတ်သက်၍ အခြားဌာနဆိုင်ရာ အဖွဲ့အစည်းများနှင့်သက်ဆိုင်သော လုပ်ငန်းကိစ္စဆောင်ရွက်ရန်လိုအပ်ပါကလည်း အငှားချထားသူတို့အနေနှင့် လိုအပ်သလို ကူညီပံ့ပိုးဆောင်ရွက်ပေးရန် သဘောတူပါသည်။

(၄) အငှားချထားသောအဆောက်အအုံ(ဉပစာ)နှင့်ပတ်သက်၍ ရေ၊ မီး၊ တယ်လီဖုန်းစသည့်အထောက်အကူပြုကိစ္စရပ်များအတွက် သွယ်တန်းတပ်ဆင်ရာတွင် အငှားချထားသူမှ လိုအပ်သလို ခွင့်ပြုပံ့ပိုးကူညီဆောင်ရွက်ပေးရန်နှင့် အဆိုပါကိစ္စရပ်များအတွက် ကုန်ကျစရိတ်အဝဝကို အငှားချထားခြင်းခံရသူမှ ကျခံရန်အသီးသီးသဘောတူပါသည်။

(၅) ငှားရမ်းသည့်သက်တမ်းကာလ စေ့ရောက်သည့်နေ့တွင် အဆောက်အအုံ(ဉပစာ)ငှားရမ်းစဉ်က ရှိသည့်အဆောက်အအုံနှင့်ပစ္စည်းများကို မူလအခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ အငှားချထားသူထံသို့ ပြန်လည်လွှဲပြောင်းပေးရမည်။

(၆) ငှားရမ်းခြင်းကုန်ဆုံး၍ ဆက်လက်မငှားရမ်းတော့ပါက အငှားချထားခြင်းခံရသူ ပိုင်ဆိုင်တပ်ဆင်ထားသည့် (ပရိဘောဂပစ္စည်းများနှင့်လျှပ်စစ်ဆိုင်ရာပစ္စည်းများ)ကို ပြန်လည်ယူဆောင်ခွင့်ရှိသည်။




အထက်ဖော်ပြပါ သဘောတူညီချက်များ၊ စည်းကမ်းချက်များကို အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဖက်မှ ကိုယ်တိုင်ဖတ်ရှုနားလည်ကြသဖြင့် အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| အငှားချထားသူ | | အငှားချထားခြင်းခံရသူ | |
|---|---|---|---|
| လက်မှတ် | .......................... | လက်မှတ် | .......................... |
| အမည် | ဦးစောထွန်းဦး | အမည် | ဦးကျော်ဝင်း |
| ရာထူး/တာဝန် | ဌာနမှူး/စီမံရေးရာဌာန | ရာထူး/တာဝန် | အုပ်ချုပ်မှုမန်နေဂျာ (အထက်မြန်မာပြည်) |
| ဌာန/လုပ်ငန်း | မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ မန္တလေးမြို့။ | ဌာန/လုပ်ငန်း | Eager Communications Group Co., Ltd. |

## အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | .......................... | လက်မှတ် | .......................... |
| အမည် | ဦးကျော်လင်းငြိမ်း | အမည် | ဦးမောင်မောင်မြင့် |
| ရာထူး/တာဝန် | Chief Information Officer | ရာထူး/တာဝန် | S.E (အထက်မြန်မာပြည်) |
| ဌာန/လုပ်ငန်း | မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ မန္တလေးမြို့။ | ဌာန/လုပ်ငန်း | Eager Communication Group Co., Ltd |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

006256

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ...၇၁၀.../ ၂၀၁၄–၂၀၁၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...အီဂါ ကမြူနီကေးရှ်(န်) ဂရု(ပ်) ကုမ္ပဏီ လီမိတက်... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ...၂၀၁၄... နှစ်၊ ...မေ... လ၊ ...၁၅... ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(မြင့်လွင်၊ ဒုတိယ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ...710... of 2014-2015

I hereby certify that ...EAGER COMMUNICATIONS GROUP COMPANY LIMITED... is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this ...FIFTEENTH... day of ...MAY, TWO THOUSAND AND FOURTEEN...

For Director General
(Myint Lwin, Deputy Director)
Directorate of Investment and Company Administration

## ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးကျော်လှ...၁၂/မရက(နိုင်)၀၃၆၀၂၁

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၂၅)၊လေဆိပ်ရိပ်သာလမ်းသွယ်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၅၂၂၅၀၀၊ Fax ၀၁-၆၅၁၅၀၉

(ဃ) ဒါရိုက်တာများ အမည်စာရင်း - ၁။ ဦးကံအောင်
၁၀/မဒန(နိုင်)၀၁၂၅၁၂
၂။ ဦးစိန်အောင်(ခ)ကြည်ရှောင်
၁၂/လမတ(နိုင်)၀၁၅၆၂၂
၃။ ဦးငွေဝင်း
၁၂/အစန(နိုင်)၀၁၉၀၉၆
၄။ ဦးခင်မောင်တင့်
၂/လကန(နိုင်)၀၀ဂ၁ဂ၅

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၅-၅-၂၀၁၄ )မှ ( ၁၄-၅-၂၀၁၉ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ဝင်းကို ၊ လက်ထောက်ညွှန်ကြားရေးမှူး)

လာရောက်ထုတ်ယူသည့်ရက်စွဲ-

ပုံစံ (မနသ-၂)
စာအမှတ် ၅၈၈-၁၁
ရက်စွဲ ၂.၁.၂၀၁၅

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၂၂/၂၀၁၅

၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၂ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဏှဗိုလှ

(ခ) အဘအမည် ဦးသာလှ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက (နိုင်) ဝ၃၆ဝ၂ဝ

(ဃ) နေရပ်လိပ်စာအမှတ် ၁၃၊ ပါရမီလမ်း၊ အမှတ် ၁၂ ရပ်ကွက်၊ လောကနတ်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း Eager Communications Group Co., Ltd ( အီဂါ ကမြူးနီး ကေးရှ်(န်) ဂရု(ပ်) ကုမ္ပဏီ လီမိတက် )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ယာဉ်ကြောစီမံခန့်ခွဲမှု နှင့် လုံခြုံရေးစနစ်(Traffic Management & Security System)နှင့် ရန်ကုန်မြို့တော် မြို့ပြဖိုင်ဘာကွန်ယက်တည်ဆောက်ခြင်းလုပ်ငန်း(Yangon City Metropolitan Fiber Network)

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ရန်ကုန်စည်ပင်သာယာရေး နယ်နိမိတ်အတွင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၃၄၁၄၁.၃၅ သန်း(အမေရိကန်ဒေါ်လာ ၃၄.၆၇ သန်း အပါအဝင် စုစုပေါင်းကျပ် သုံးသောင်း လေးထောင် တစ်ရာ လေးဆယ့် တစ်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

KANBAWZA BANK
KYUNTAWLAN BRANCH
B1, Junction Square Compound
Sanchaung Tsp, Yangon
Ph: (01) 532406-07-08,
Fax: (01) 515207-08, 515213

Date : 05 April, 2016

ACCOUNT NO. : 06010906003692001 (USD)
NAME : EAGER COMMUNICATIONS GROUP CO.,LTD, U EAIKDI HLA, U KAN AUNG
NRC : 710/2014-2015, 12/MAYAKA(N)036021, 10/MADANA(N)012512,
ADDRESS : NO.13-16,RM.202,SHWE GABAR , HOUSING,MAYANGONE TSP, YANGON DIVISION

PHONE : 1656593

## Statement Of Transaction For The Date Between 01/03/2016 and 05/04/2016

| Date_Time | Description | Debit | Credit | Balance |
|---|---|---|---|---|
| 01/03/2016 | Opening Balance - - | | | 107,733.06 |
| 01/03/2016 | By Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES (YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | | 21,594.83 | 129,327.89 |
| 01/03/2016 | To Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES (YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | 43.19 | | 129,284.70 |
| 03/03/2016 | By Transfer - A/C Transfer - - - IBD,TRF,TR FROM MICB FDH150033 HUAWEI TECHNOLOGIES(YGN)CO.,LTD TO 06010906003692001 EAGER COMMUNICATIONS GROUP CO.,LTD | | 2,858.65 | 132,143.35 |
| 03/03/2016 | To Transfer - A/C Transfer - - - IBD,TR CHARGES | 5.72 | | 132,137.63 |
| 03/03/2016 | By Cash - Deposit Cash transaction KTD-DAW SAN NILAR CHIT,095032323 - - | | 10,000.00 | 142,137.63 |
| 03/03/2016 | To Transfer - COMMISSION 330601017 - KTD-DAW SAN NILAR CHIT,095032323 - - | 30.00 | | 142,107.63 |
| 03/03/2016 | To Transfer - Cash Handling Fee 330601017 - KTD-DAW SAN NILAR CHIT,095032323 - - | 45.00 | | 142,062.63 |
| 03/03/2016 | By Cash - Deposit Cash transaction KTD-U AYE KO KO,0943048430 - - | | 2,019.00 | 144,081.63 |
| 03/03/2016 | To Transfer - COMMISSION 330601017 - KTD-U AYE KO KO,0943048430 - - | 6.06 | | 144,075.57 |
| 03/03/2016 | To Transfer - Cash Handling Fee 330601017 - KTD-U AYE KO KO,0943048430 - - | 9.09 | | 144,066.48 |
| 07/03/2016 | By Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES(YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | | 5,983.58 | 150,050.06 |
| 07/03/2016 | To Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES(YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | 11.97 | | 150,038.09 |
| 07/03/2016 | By Transfer - A/C Transfer - - - IBD,TRF,TR FROM MICB FDH150033 HUAWEI TECHNOLOGIES(YGN)CO.,LTD TO 06010906003692001 EAGER COMMUNICATIONS GROUP CO.,LTD | | 82,982.21 | 233,020.30 |
| 0[illegible]/2016 | To Transfer - A/C Transfer - - - IBD,TR CHARGES | 165.96 | | 232,854.34 |
| 08/03/2016 | To Cash - Cheque Withdrawal by Cash 00328504 KTL-DAW MOH MOH HLAING - - | 5,000.00 | | 227,854.34 |
| 08/03/2016 | By Transfer - A/C Transfer - - - IBD,TRF,TR FROM MICB FDH150033 HUAWEI TECHNOLOGIES(YGN)CO.,LTD TO 06010906003692001 EAGER COMMUNICATIONS GROUP CO.,LTD | | 2,997.79 | 230,852.13 |
| 08/03/2016 | To Transfer - A/C Transfer - - - IBD,TR CHARGES | 3.75 | | 230,848.38 |
| 10/03/2016 | By Transfer - A/C Transfer - - - IBD,TRF FROM HUAWEI TECHNOLOGIES (YGN) CO., LTD FDH.15.0033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | | 1,398.96 | 232,247.34 |
| 10/03/2016 | To Transfer - A/C Transfer - - - IBD,TRF CHARGES (0.125%) FOR MICB TO KBZ. | 3.00 | | 232,244.34 |
| 16/03/2016 | By Transfer - A/C Transfer - - - IBD,TRF,TR FROM MICB FDH150033 HUAWEI TECHNOLOGIES(YGN)CO.,LTD TO 06010906003692001 EAGER COMMUNICATIONS GROUP CO.,LTD | | 7,855.25 | 240,099.59 |
| 16/03/2016 | To Transfer - A/C Transfer - - - IBD,TR CHARGES | 9.82 | | 240,089.77 |
| 17/03/2016 | To Transfer - CHEQUE TRANSFER 06010906004508001 - 00328505 IBD,TRF,TR FROM 06010906003692001,EAGER COMMUNICATIONS GROUP CO.,LTD TO 06010906004508001,MATRIX-STREAM COMMUNICATIONS CO., LTD. - - | 8,250.00 | | 231,839.77 |

Without Reversal

| ate_Time | Description | Debit | Credit | Balance |
|---|---|---|---|---|
| 17/03/2016 | To Transfer - CUSTOMER TRANSFER CHARGE 06010906004508001 - 00328505 IBD,TRF,TR FROM 06010906003692001,EAGER COMMUNICATIONS GROUP CO.,LTD TO 06010906004508001 MATRIX-STREAM COMMUNICATIONS CO., LTD. - | 2.00 | | 231,837.77 |
| 18/03/2016 | By Transfer - A/C Transfer - - - IBD,TRF FROM HUAWEI TECHNOLOGIES (YGN) CO., LTD FDH 15.0033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | | 704.37 | 232,542.14 |
| 18/03/2016 | To Transfer - A/C Transfer - - - IBD,TRF CHARGES (0.125%) FOR MICB TO KBZ. | 3.00 | | 232,539.14 |
| 21/03/2016 | By Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES(YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | | 754.61 | 233,293.75 |
| 21/03/2016 | To Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES(YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | 3.00 | | 233,290.75 |
| 29/03/2016 | To Cash - Cheque Withdrawal by Cash 00328506 KTL-DAW SU MON PYAE - - | 5,000.00 | | 228,290.75 |
| 30/03/2016 | By Transfer - A/C Transfer - - - TRF IBD,TR FROM HUAWEI TECHNOLOGIES(YGN)CO.,LTD,FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD,06010906003692001(MICB TO KBZ) | | 3,936.21 | 232,226.96 |
| 30/03/2016 | To Transfer - A/C Transfer - - - TRF IBD,TR CHARGES FOR MICB HUAWEI TECHNOLOGIES(YGN)CO.,LTD,FDH.150033 TO KBZ | 4.92 | | 232,222.04 |
| 30/03/2016 | By Transfer - A/C Transfer - - - TRF IBD,TR FROM HUAWEI TECHNOLOGIES(YGN)CO.,LTD,FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD,06010906003692001(MICB TO KBZ) | | 17,816.42 | 250,038.46 |
| 30/03/2016 | To Transfer - A/C Transfer - - - TRF IBD,TR CHARGES FOR MICB HUAWEI TECHNOLOGIES(YGN)CO.,LTD,FDH.150033 TO KBZ | 22.27 | | 250,016.19 |
| 30[illegible]16 | By Transfer - A/C Transfer - - - IBD,TRF FROM HUAWEI TECHNOLOGIES (YGN) CO., LTD FDH.15.0033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001. | | 5,818.73 | 255,834.92 |
| 30/03/2016 | To Transfer - A/C Transfer - - - IBD,TRF CHARGES (0.125%) FOR MICB TO KBZ. | 7.27 | | 255,827.65 |
| 30/03/2016 | By Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES (YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | | 23,731.23 | 279,558.88 |
| 30/03/2016 | To Transfer - A/C Transfer - - - IBD TRF,TR FROM HUAWEI TECHNOLOGIES (YGN) CO;LTD FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD 06010906003692001 | 29.66 | | 279,529.22 |
| 31/03/2016 | By Transfer - A/C Transfer - - - TRF IBD,TR FROM HUAWEI TECHNOLOGIES(YGN)CO.,LTD,FDH.150033 TO EAGER COMMUNICATIONS GROUP CO.,LTD,06010906003692001(MICB TO KBZ) | | 23,918.30 | 303,447.52 |
| 31/03/2016 | To Transfer - A/C Transfer - - - TRF IBD,TR CHARGES FOR MICB HUAWEI TECHNOLOGIES(YGN)CO.,LTD,FDH.150033 TO KBZ | 29.90 | | 303,417.62 |
| 04/04/2016 | By Cash - Deposit Cash transaction KTD-U AYE KO KO,09784900488 - - | | 14,000.00 | 317,417.62 |
| 04/04/2016 | To Transfer - COMMISSION 330601017 - KTD-U AYE KO KO,09784900488 - - | 42.00 | | 317,375.62 |
| 04/04/2016 | To Transfer - Cash Handling Fee 330601017 - KTD-U AYE KO KO,09784900488 - - | 63.00 | | 317,312.62 |
| 04/04/2016 | By Transfer - A/C Transfer 20610920600127801 - KTD-TR FROM 20610920600127801 GOLDEN TMH TELECOM CO., LTD. TO 06010906003692001 EAGER COMMUNICATIONS GROUP CO.,LTD - - | | 10,080.00 | 327,392.62 |
| 05/04/2016 | Closing Balance | | | 327,392.62 |
| bit | : 24 Debit Total | 18,790.58 | | |
| o. of Credit | : 18 Credit Total | | 238,450.14 | |

**Thank You For Banking With KYUNTAWLAN BRANCH**

**Please report any discrepancies found on your statement immediately.**

**N.B – Statement will not be sent unless there is a change of transaction.**

**Asst: / DY Manager**

**Without Reversal**

SPECIMEN SIGNATURE(S)

| | |
|---|---|
| 0000159 | Manager |
| | Manager |

Type of Account: Special Saving(Company / Organization)

Signature Requirements: [illegible]

Special Instruction: (3.6.2016) [illegible]

Account No: 3021730000044 (AGD BANK (Kamaryut Branch))

Name of Account: EAGER COMMUNICATIONS GROUP CO.,LTD

| Name(s) of Account Holder(s) | NRC/CRC No(s) |
|---|---|
| 1. | |
| 2. | |
| 3. U EAIKDI HLA | 12/MAYAKA(N)036021 |
| U KAN AUNG | 10/MADANA(N)012512 |

AGD BANK
Asia Green Development Bank Limited.

The use of this passbook is governed by the Bank's Terms and Conditions for Special Deposit as amended from time to time.

AGD BANK
Asia Green Development Bank Limited

| | Date ရက်စွဲ | Code သင်္ကေတ | Deposit သွင်းငွေ | Withdrawal ထုတ်ငွေ | Balance လက်ကျန် | Official ငွေကြေးအရာရှိ |
|---|---|---|---|---|---|---|
| 1 | 16-08-2016 | TRW | 0.00 | 50.00 | 186,738,028.99 | |
| 2 | 17-08-2016 | TRW | 0.00 | 50.00 | 186,737,978.99 | |
| 3 | 23-08-2016 | TRW | 0.00 | 50.00 | 186,737,928.99 | |
| 4 | 24-08-2016 | TRW | 0.00 | 50.00 | 186,737,878.99 | |
| 5 | 25-08-2016 | TRW | 0.00 | 50.00 | 186,737,828.99 | |
| 6 | 26-08-2016 | TRW | 0.00 | 50.00 | 186,737,778.99 | |
| 7 | 29-08-2016 | TRW | 0.00 | 50.00 | 186,737,728.99 | |
| 8 | 30-08-2016 | TRW | 0.00 | 50,000,000.00 | 136,737,728.99 | |
| 9 | 30-08-2016 | TRW | 0.00 | 50.00 | 136,737,678.99 | |
| 10 | 31-08-2016 | TRW | 0.00 | 35,000,000.00 | 101,737,678.99 | |
| 11 | 31-08-2016 | TRW | 0.00 | 46,321,819.00 | 55,415,859.99 | |
| 12 | 31-08-2016 | TRW | 0.00 | 50.00 | 55,415,809.99 | |
| 13 | 31-08-2016 | INT | 937,960.46 | 0.00 | 56,353,770.45 | |
| 14 | 01-09-2016 | TRW | 0.00 | 50.00 | 56,353,720.45 | |
| 15 | 01-09-2016 | CQD | 100,000,000.00 | 0.00 | 156,353,720.45 | |
| 16 | 02-09-2016 | TRW | 0.00 | 50.00 | 156,353,670.45 | |
| 17 | 05-09-2016 | TRW | 0.00 | 50.00 | 156,353,620.45 | |
| 18 | 06-09-2016 | TRW | 0.00 | 50.00 | 156,353,570.45 | |
| 19 | 07-09-2016 | TRW | 0.00 | 50.00 | 156,353,520.45 | |
| 20 | 08-09-2016 | TRW | 0.00 | 50.00 | 156,353,470.45 | |

ဘဏ်မှမထွက်ခွာမီစာရင်းရေးသွင်းချက်များကိုစစ်ဆေးပါ။

AGD BANK
Asia Green Development Bank Limited

| | Date<br>ရက်စွဲ | Code<br>သင်္ကေတ | Deposit<br>သွင်းငွေ | Withdrawal<br>ထုတ်ငွေ | Balance<br>လက်ကျန် | Official<br>ငွေကြေး[illegible] |
|---|---|---|---|---|---|---|
| 1 | 09-09-2016 | TRW | 0.00 | 50.00 | 156,353,420.45 | |
| 2 | 14-09-2016 | TRW | 0.00 | 50.00 | 156,353,370.45 | |
| 3 | 15-09-2016 | TRW | 0.00 | 50.00 | 156,353,320.45 | |
| 4 | 16-09-2016 | TRW | 0.00 | 50.00 | 156,353,270.45 | |
| 5 | 20-09-2016 | TRW | 0.00 | 50.00 | 156,353,220.45 | |
| 6 | 21-09-2016 | TRW | 0.00 | 50.00 | 156,353,170.45 | |
| 7 | 22-09-2016 | TRW | 0.00 | 50.00 | 156,353,120.45 | |
| 8 | 23-09-2016 | TRW | 0.00 | 50.00 | 156,353,070.45 | |
| 9 | 26-09-2016 | TRW | 0.00 | 50.00 | 156,353,020.45 | |
| 10 | 28-09-2016 | TRW | 0.00 | 50.00 | 156,352,970.45 | |
| 11 | 29-09-2016 | TRW | 0.00 | 50.00 | 156,352,920.45 | |
| 12 | 30-09-2016 | TRW | 0.00 | 45,113,712.00 | 111,239,208.45 | |
| 13 | 30-09-2016 | TRW | 0.00 | 50.00 | 111,239,158.45 | |
| 14 | 30-09-2016 | INT | 761,555.02 | 0.00 | 112,000,713.47 | |
| 15 | 03-10-2016 | TRW | 0.00 | 50.00 | 112,000,663.47 | |
| 16 | 04-10-2016 | TRW | 0.00 | 50.00 | 112,000,613.47 | |
| 17 | 05-10-2016 | TRW | 0.00 | 50.00 | 112,000,563.47 | |
| 18 | 06-10-2016 | TRW | 0.00 | 50.00 | 112,000,513.47 | |
| 19 | 06-10-2016 | TRW | 0.00 | 1,100,000.00 | 110,900,513.47 | AGD |
| 20 | 07-10-2016 | TRW | 0.00 | 49,291,848.86 | 61,608,664.61 | |

ဘဏ်မှမထွက်ခွာမီစာရင်းရေးသွင်းချက်များကိုစစ်ဆေးပါ။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# အီဂါ ကမြူးနီးကေးရှ်(န်)ဂရု(ပ်) ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

***AND***

**Articles Of Association**

***OF***

# EAGER COMMUNICATIONS GROUP COMPANY LIMITED.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အီဂါ ကမြူးနီးကေးရှ(န်)ဂရု(ပ်) ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖❖❖❖

၁။ ကုမ္ပဏီ၏ အမည်သည် " အီဂါ ကမြူးနီးကေးရှ(န်)ဂရု(ပ်) ကုမ္ပဏီလီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀/-( ကျပ်သန်းငါးရာတိတိ ) ဖြစ်၍ငွေကျပ် ၁၀၀,၀၀၀/- (ကျပ်တစ်သိန်းတိတိ)တန် အစုရှယ်ယာပေါင်း (၅,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လတ်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက် များနှင့်အညီ အလျှော့အတွင်းသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

ကုမ္ပဏီမှဆောင်ရွက်မည့် လုပ်ငန်း ရည်ရွယ်ချက်များမှာ -

(၁) အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
(၂) ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
(၃) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
(၄) ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
(၅) သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
(၆) ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
(၇) တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
(၈) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများ ချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ
(၉) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
(၁၀) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
(၁၁) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက်ခြင်း လုပ်ငန်းများ၊
(၁၂) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
(၁၃) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
(၁၄) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
(၁၅) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့်ပြုပြင်ထုတ်လုပ်ခြင်း၊
(၁၆) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
(၁၇) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၁၈) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၁၉) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၂၀) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ဗရိတောဂများ ထုတ်လုပ်ခြင်း၊
(၂၁) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
(၂၂) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၂၃) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၂၄) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
(၂၅) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
(၂၆) ဆောက်လုပ်ရေးလုပ်ငန်း
(၂၇) ခရီးသွားလုပ်ငန်း
(၂၈) ကျောက်မျက်လုပ်ငန်း
(၂၉) ဟိုတယ်လုပ်ငန်း
(၃၀) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း
(၃၁) သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း
(၃၂) တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာ ရောင်းဝယ်ခြင်း
(၃၃) ရေထွက်ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း
(၃၄) ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများ ရောင်းဝယ်ခြင်း
(၃၅) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ ရောင်းဝယ်ခြင်း
(၃၆) စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ ရောင်းဝယ်ခြင်း
(၃၇) အိမ်သုံးကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း
(၃၈) လူသုံးကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း
(၃၉) ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများ ရောင်းဝယ်ခြင်း
(၄၀) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း
(၄၁) ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများ ရောင်းဝယ်ခြင်း
(၄၂) ကိရိယာတန်ဆာပလာအမျိုးမျိုး ရောင်းဝယ်ခြင်း
(၄၃) ဆေးနှင့်ဆေးပစ္စည်းများ ရောင်းဝယ်ခြင်း
(၄၄) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း
(၄၅) အထည်အလိပ်နှင့် အဝတ်အထည်များ ရောင်းဝယ်ခြင်း
(၄၆) စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများ ရောင်းဝယ်ခြင်း
(၄၇) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများ ရောင်းဝယ်ခြင်း
(၄၈) အသေးစားငွေရေးကြေးရေးလုပ်ငန်း
(၄၉) ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့် နည်းပညာဆိုင်ရာ တည်ဆောက်မှုလုပ်ငန်း၊ ဝန်ဆောင်မှုလုပ်ငန်း၊ ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းများနှင့် ၄င်းတို့နှင့်ဆက်စပ်သည့် အလုံးစုံသောလုပ်ငန်းတိစ္စရပ်များအားလုံး။

၁။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံ မှမဆို ငွေချေးယူရန်။

ခြွင်းချက် ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရား ဥပဒေ များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များ က ခွင့် ပြုထားသည့် လုပ်ငန်းများမှအပ အခြား လုပ်ငန်းများ ကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန် ကာလ အားလျော်စွာ တည်မြဲနေသည့် တရား ဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီ သင့်တော်ခြင်း သို့မဟုတ်၊ ခွင့် ပြုထားရှိခြင်း ရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက် ထားရှိပါသည်။

